# ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

## ဝင်စာတင်ပြလွှာ

အကြောင်းအရာ။ ။ Alliance Brewery Co., Ltd. မှ ဘီယာထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရန် ခွင့်ပြုမိန့် အဆိုပြုချက်တင်ပြခြင်းကိစ္စ

| နေ့စွဲ | ဆောင်ရွက်ချက် | မှတ်ချက် |
|---|---|---|
| ၃၀.၈.၂၀၁၁ | IBTC မှ လုပ်ငန်းဆောင်ရွက်ခွင့် တင်ပြသည်။ | |
| ၂.၉.၂၀၁၁ | ဒုညွှန် စက်မှု (၁) သို့ သဘောထားတောင်းသည်။ | |
| ၁၅.၉.၂၀၁၁ | စက်မှု (၁) သဘောထား ရရှိသည်။ | |
| ၃၀.၉.၂၀၁၁ | Alliance Brewery Co., Ltd အမည်ဖြင့် လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက် တင်ပြလာသည်။ | |
| ၇.၁၀.၂၀၁၁ | ရန်ကုန်တိုင်းဒေသကြီး အစိုးရ သို့ သဘောထားတောင်းသည်။ | |
| " | ၁၄/၂၀၁၁ IICP တက်မြင့် Company သို့ လိုအပ်ချက် အထုတ်သည်။ | |
| ၃.၁၁.၂၀၁၁ | ရန်ကုန်တိုင်းဒေသကြီး သဘောထား ရရှိသည်။ | |
| ၉.၁၁.၂၀၁၁ | ၂၃/၂၀၁၁ MIC သို့ တင်ပြသည်။ | |
| ၁၅.၁၁.၂၀၁၁ | မဒသ-၈၁၁/၂၀၁၁ ဖြင့် ခွင့်ပြုမိန့် ထုတ်ပေးသည်။ အမိန့် ကြော်ငြာစာအမှတ် ၆၀/၂၀၁၁ (မဒသ) | |
| ၁.၄.၂၀၁၃ | ရန်ကုန်တိုင်း သဘောထား မိတ္တူ ကုမ္ပဏီ မှ (ဗမ ဆောက်ကွန် ဦး၁) လာတောင်းသည်။ ညွှန်မှူး ခွင့်ပြုသဖြင့် မိတ္တူပေးသည်။ ယခု MCTI အရ ခွင့်ပြုမိန့် ရထားပြီး FIL ဖြင့် ပြောင်းလဲ ဆောင်ရွက်ရန် သဘောထားမိတ္တူ တောင်းခြင်း ဖြစ်ပါသည်။ | |

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## တိုင်းဒေသကြီးအစိုးရအဖွဲ့
## ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၂ / ၃ - ၆ ( ၃ ) / ( စီးပွား )
ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ အောက်တိုဘာလ ၃၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၇-၁၀-၂၀၁၁ ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/မ-၁၁၈၆/၂၀၁၁(၁၁၀၇၄)

၁။ မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်မှ ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်၊ လိပ်ပွတ်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၅၆၀)ရှိ မြေ (၂၄. ၈၆)ဧကတွင် ဘီယာချက်စက်ရုံတည်ဆောက်၍ ဘီယာထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြချက်နှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားပေးရန် ရည်ညွှန်းစာဖြင့် အကြောင်းကြားလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ထွက်ရှိလာသည့်ဘီယာများအား ပြည်တွင်းတွင် ရောင်းချခြင်းအားဖြင့် ပြည်ပမှ ဘီယာတင် သွင်းမှုလျော့နည်းစေပြီး နိုင်ငံခြားငွေ စီးထွက်မှုကိုလျော့နည်းစေခြင်း၊ လုပ်သားအင်အား (၁၅၀)ဦးခန့်ထားပြီး နည်းပညာသင်ကြားလေ့ကျင့်ပေးမည်ဖြစ်သဖြင့် မိမိတို့၏ပြည်သူ/သား များအလုပ်ရရှိခြင်း၊ နည်းပညာတတ်ကျွမ်းစေခြင်းတို့ကြောင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက် မှုနှင့် အလုပ်အကိုင်ရရှိမှုအတွက် အထောက်အကူဖြစ်စေမည်ဖြစ်ပါသည်။

( ခ ) အဆိုပြု မြေနေရာတွင် လုပ်ငန်း ဆောင်ရွက်သင့်ပြီး လက်ရှိတွင် လုပ်ငန်းများဆောင်ရွက် ခြင်းမရှိသေးပါ။

( ဂ ) စက်ရုံမှစွန့်ပစ်ပစ္စည်းများအား အာဆီယံစံချိန်စံညွှန်းများနှင့်အညီ စနစ်တကျဆောင်ရွက်ပြီး ဘေးဥပါဒ်မပေးနိုင်သည့် ပမာဏအနည်းဆုံးအဆင့်အထိ လျော့ချဆောင်ရွက်မည်ဖြစ်၍ စက်ရုံပတ်ဝန်းကျင်ထိခိုက်မှုရှိနိုင်မည်မဟုတ်ပါ။

၂။ အထက်ဖော်ပြပါအချက်များကြောင့် မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း သစ်ဆောင်ရွက်မှုအား ခွင့်ပြုနိုင်ပါရန် ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

မိတ္တူကို

တိုင်းဒေသကြီးဝန်ကြီး၊ စီမံကိန်းနှင့်စီးပွားရေးဝန်ကြီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး

လက်ခံစာတွဲ

မျှောစာတွဲ

IBTC

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၆(က)/မ-၁၁၈၆/၂၀၁၁(၁၂၅၉၄-၈)
ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ နိုဝင်ဘာ လ ၃ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ **မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) မှ ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်တွင် ဘီယာထုတ်လုပ် ရောင်းချ ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်း ကိစ္စ**

၁။ မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) သည် ကုမ္ပဏီ၏ ဒါရိုက်တာအဖွဲ့ဝင်များဖြစ်သော ဦးအောင်မိုးကျော်၊ ဦးလွင်အောင်အေး၊ ဦးတင့်ဦး၊ ဦးဇော်ထိုက် နှင့် ဦးမိုးချစ်သန်းတို့၏အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော ရန်ကုန်တိုင်း ဒေသကြီး၊ မှော်ဘီမြို့နယ်၊ လိပ်ပွတ် ကျေးရွာအုပ်စု ၊ ကွင်းအမှတ်(၅၆၀) ၊ ဦးပိုင်အမှတ် ၇၂/၁၊ ၇၇/၁၊ ၇၈ ၊ ၇၇ ၊ ၃+၇၄/၂ ရှိ လန ၃၉ မြေ(၂၄.၈၆)ဧက တွင် ဘီယာထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံ သားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးအောင်မိုးကျော် (အဘ - ဦးလှမြင့်)မှ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့် နှင့် စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ သို့ သဘောထား တောင်းခံခဲ့ရာ ဝန်ကြီးချုပ်ကိုယ်တိုင် လက်မှတ်ရေးထိုး၍ အောက်ပါအတိုင်း ပြန်ကြား လာပါသည်-(နောက်ဆက်တွဲ-က)

(က) ထွက်ရှိလာသော ဘီယာများအား ပြည်တွင်းတွင် ရောင်းချခြင်းဖြင့် ပြည်ပမှ ဘီယာ တင်သွင်းမှု လျော့နည်းစေပြီး နိုင်ငံခြားငွေစီးထွက်မှုကို လျော့နည်းစေခြင်း၊ လုပ်သား များအတွက် နည်းပညာ နှင့် အလုပ်အကိုင် ရရှိခြင်း တို့ကြောင့် ဒေသ စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူဖြစ်နိုင်ပါကြောင်း၊

(ခ) အဆိုပြုမြေနေရာတွင် လုပ်ငန်း ဆောင်ရွက်နေခြင်း မရှိသေးပါကြောင်းနှင့် လုပ်ငန်း ဆောင်ရွက်ရန် သင့်လျော်ပါကြောင်း၊

(ဂ) စက်ရုံမှစွန့်ပစ်ပစ္စည်းများအား ဘေးဥပဒ်မပေးနိုင်သည့်ပမာဏအနည်းဆုံးအဆင့်ထိ လျော့ချဆောင်ရွက်မည်ဖြစ်ပါ၍ ပတ်ဝန်းကျင်ထိခိုက်မှုမရှိနိုင်ပါကြောင်းနှင့် လုပ်ငန်း ဆောင်ရွက်ခြင်းကိုထောက်ခံပါကြောင်း၊

၃။ အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်နှင့် စပ်လျဉ်း၍ အမှတ်(၁)စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါး နှင့် စားသောက်ကုန်လုပ်ငန်းသို့ မူဝါဒဆိုင်ရာသဘောထားတောင်းခံခဲ့ရာ “ ဘီယာ ထုတ်လုပ်ခြင်း လုပ်ငန်းသည် နိုင်ငံတော်မှ ကန့်သတ်ထားသော အဓိကစက်မှုလုပ်ငန်း (၁၅)မျိုးတွင် ပါဝင်ပြီး နိုင်ငံတော် အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီရုံး၏ (၂၃-၄-၁၉၉၉) နေ့တွင် ထုတ်ပြန်သော

စာအမှတ်၊ ၄၀၅/၃-၂/နယက အရ လုပ်ငန်းရှင်များသည် လုပ်ငန်းမစတင်မီ စစ်ဆေးမှု ခံယူနိုင်ရန်အတွက် အချက်အလက်ပြည့်စုံသည့် အဆိုပြုလွှာ ဖြင့် အမှတ်(၁)စက်မှုဝန်ကြီး ဌာနအောက်ရှိ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနသို့ တင်ပြ လျှောက်ထားရန်လိုအပ်ပါကြောင်း၊ ယခုအခါ ပြည်တွင်းတွင် ဘီယာစက်ရုံ(၃)ရုံ ရှိရာ ကာကွယ်ရေး ဝန်ကြီးဌာန၊ မြန်မာ့ စီးပွားရေး ကော်ပိုရေးရှင်းတွင် (၁)ရုံ နှင့် နိုင်ငံတော်ငွေထည့်ဝင်ပါရှိသော ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေး ဦးပိုင်လီမိတက် တွင် (၂)ရုံ ရှိပြီး၊ ပုဂ္ဂလိကလုပ်ငန်းရှင်သို့ ခွင့်ပြုထားခြင်း မရှိပါကြောင်း၊ ၎င်း ဘီယာစက်ရုံ(၃)ရုံသည် သွင်းကုန်အစားထိုးရန်နှင့် နိုင်ငံခြားငွေ ချွေးခြံချွေတာနိုင်ရန် ပြည်တွင်း၌ ထုတ်လုပ်ခြင်း ဖြစ်သော်လည်း အဓိကကုန်ကြမ်းဖြစ်သော malt , hop နှင့် yeast တို့ကို နိုင်ငံခြားမှ တင်သွင်းရ ပါကြောင်း၊ သို့ဖြစ်ပါ၍ အဆိုပြု ကုမ္ပဏီအနေဖြင့် ဘီယာထုတ်လုပ်ရာတွင် အဓိက ကုန်ကြမ်းဖြစ်သော malt , hop နှင့် yeast တို့ကို ပြည်ပမှ တင်သွင်းမှု အပြင် ပြည်တွင်းတွင် ထုတ်လုပ်နိုင်ရေးကိုပါ စီမံဆောင်ရွက် သင့်ပါကြောင်း နှင့် အဆိုပြုလွှာပြုစု၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသင့် ပါကြောင်း " သဘောထား ပြန်ကြားထားပါ သည်။(နောက်ဆက်တွဲ-ခ)

၄။ လုပ်ငန်း အဆိုပြုချက်ကို (နောက်ဆက်တွဲ - ဂ)ဖြင့် ဖော်ပြထားပါသည်။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ (၁.၈၄)သန်းအပါအဝင် ကျပ် (၁၅၈၅.၈၈) သန်း ဖြစ်ပါသည်။ လုပ်ငန်းအတွက် လိုအပ်သော စက် ပစ္စည်းများ အမေရိကန်ဒေါ်လာ (၁.၈၄)သန်း ဖိုးအားပြည်ပ မှ ဝယ်ယူမည် ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမည့် အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | |
|---|---|---|
| **<u>စုစုပေါင်းရင်းနှီးမြှုပ်နှံမှု</u>** | | **<u>ကျပ် ၁၅၈၅.၈၈ သန်း</u> (US$ ၁.၈၄ သန်း အပါအဝင်)** |
| (က) | စက်ပစ္စည်းကိရိယာများ | ၁၁.၀၃ (US$ ၁.၈၄ သန်း ) |
| (ခ) | အဆောက်အဦ | ၁၄၃၃.၇၆ |
| (ဂ) | မြေ | ၁၄၁.၀၉ |

၅။ လျှပ်စစ်ဓါတ်အားကို ရန်ကုန်မြို့တော်လျှပ်စစ်ဓါတ်အားပေးရေးအဖွဲ့မှ ခွင့်ပြုထားသော (၃၃/၁၁)ကေဗွီ၊ (၃)အမ်ဗွီအေ ခွဲရုံ မှ ရယူမည် ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၆။ အဆိုပြုလုပ်ငန်းမှဘီယာများထုတ်လုပ်မည်ဖြစ်ပြီး၊ ပုံမှန်နှစ်တွင်ထုတ်လုပ်နိုင်မှုနှင့် ဝင်ငွေများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအစား | ထုတ်လုပ်မှု | ဝင်ငွေ (ကျပ်သန်း) | ထုတ်လုပ်မည့် ကာလ |
|---|---|---|---|---|
| ၁။ | KEG (စည်) | ၂၉၂၆၅၈ | ၈၄၂၉ | ၂၀၁၄ မှ ၂၀၂၃ အထိ |
| ၂။ | Bottle(ပုလင်း) | ၇၂၇၃၁၆၂ | ၅၈၁၉ | ၂၀၁၄ မှ ၂၀၂၃ အထိ |
| ၃။ | Can(ဘံဗူး) | ၁၄၈၅၄၆၃၅ | ၅၂၂၉ | ၂၀၂၁ မှ ၂၀၂၃ အထိ |

၇။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

**အမေရိကန်တစ်ဒေါ်လာ= ၆ ကျပ်**

| | နိုင်ငံခြားငွေဖြင့် US$(သန်း) | ညီမျှသော ကျပ်(သန်း) | ကျပ်ငွေဖြင့် ကျပ်(သန်း) | စုစုပေါင်းကျပ် ကျပ်(သန်း) |
|---|---|---|---|---|
| ဝင်ငွေ | - | - | ၂၅၂၇၁.၁၆ | ၂၅၂၇၁.၁၆ |
| အသုံးစရိတ် | - | - | ၁၆၃၂၃.၉၅ | ၁၆၃၂၃.၉၅ |
| အသားတင် အမြတ် | - | - | ၈၉၄၇.၂၁ | ၈၉၄၇.၂၁ |

**အမေရိကန်တစ်ဒေါ်လာ= ၈၀၀ကျပ်**

| | နိုင်ငံခြားငွေဖြင့် US$(သန်း) | ညီမျှသော ကျပ်(သန်း) | ကျပ်ငွေဖြင့် ကျပ်(သန်း) | စုစုပေါင်းကျပ် ကျပ်(သန်း) |
|---|---|---|---|---|
| ဝင်ငွေ | - | - | ၂၅၂၇၁.၁၆ | ၂၅၂၇၁.၁၆ |
| အသုံးစရိတ် | - | - | ၁၉၇၃၁.၁၆ | ၁၉၇၃၁.၁၆ |
| အသားတင်အမြတ် | - | - | ၅၅၄၀.၀၀ | ၅၅၄၀.၀၀ |

၈။ နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ် လုပ်ငန်း ခွန်ကျပ် (၈၇၇၈.၄၀) သန်း နှင့်ဝင်ငွေခွန်ကျပ်(၃၈၃၄.၅၂)သန်း ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေ ကာလမှာ (၁)နှစ် နှင့် (၆)လ ဖြစ်ပြီး၊ အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း IRR မှာ (၂၈.၂)% ဖြစ်ပါသည်။

၉။ လုပ်ငန်းဆောင်ရွက်ရန်ပြည်တွင်းမှလုပ်သား (၁၆၃) ဦး ခန့်ထားမည် ဖြစ်ပြီး၊ နိုင်ငံခြားသား ပညာရှင်(၃၀)ဦးအား ခန့်ထားမည်ဖြစ်ကြောင်းတင်ပြထားပါသည်။ ဝန်ထမ်းသက်သာ ချောင်ချိရေး နှင့် လုပ်ငန်းခွင် သာယာရေး အတွက် စီစဥ်ပေး ထားပါကြောင်း ကုမ္ပဏီမှ တင်ပြထား ပါသည်။

၁၀။ ငွေကြေး အထောက်အထားအဖြစ် ကုမ္ပဏီ အမည်ဖြင့် ကမ္ဘောဇဘဏ် လီမိတက် ရှိ (၆-၁၀-၂၀၁၁) နေ့ရှိ ငွေလက်ကျန် ကျပ်(၁၅၀၀.၀၀) သန်း (သုံးစွဲမည့်ကျပ်ငွေ၏ ၁၀၅%) နှင့် နိုင်ငံခြားငွေ အထောက် အထား အဖြစ် ကုမ္ပဏီအမည်ဖြင့် (၂၀-၁၀-၂၀၁၁) နေ့ရှိ ငွေလက်ကျန် အမေရိကန် ဒေါ်လာ (၁.၈၄)သန်း (သုံးစွဲမည့်နိုင်ငံခြားငွေ၏ ၁၀၀ %) ရှိကြောင်း တင်ပြထားပါသည်။

၁၁။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများ သာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မီးဘေးအန္တရာယ်မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင်

ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်းဒေသကြီးရ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာနတွင်မှတ်ပုံတင်ထားရှိမည်ဖြစ်ကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များ ကို လိုက်နာ ဆောင်ရွက် သွားမည် ဖြစ်ကြောင်း ဝန်ခံ ကတိပြုထားပါသည်။ ထို့ပြင် သဘာဝ ပါတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်များ၊ ရေဆိုးသန့်စင်စက်ရုံ တည်ဆောက်ရန် အစီအစဉ်များနှင့် သွင်းကုန်အစားထိုး စီမံကိန်းများကိုလည်း တင်ပြထားပါသည်။

၁၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကိုလည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကိုလည်းကောင်း ခံစားခွင့်ပြုရပါမည်။

၁၃။ သို့ဖြစ်ပါ၍ မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) မှ ရန်ကုန်တိုင်း ဒေသကြီး၊ မှော်ဘီမြို့နယ်တွင် ဘီယာထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်းအပေါ် လမ်းညွှန်မှု ခံယူအပ်ပါသည်။

အတွင်းရေးမှူး(ကိုယ်စား)
(အောင်နိုင်ဦး၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူ - ရုံးလက်ခံ

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၆၀ / ၂၀၁၁ (မနသ)
နေပြည်တော်၊ ၁၃၇၃ ခုနှစ်၊ တန်ဆောင်မုန်းလပြည့်ကျော် ၅ ရက်
(၂၀၁၁ ခုနှစ် ၊ နိုဝင်ဘာလ ၂၅ ရက်)

၁။ မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) သည် ကုမ္ပဏီ၏ ဒါရိုက်တာအဖွဲ့ဝင်များဖြစ်သော ဦးအောင်မိုးကျော်၊ ဦးလွင်အောင်အေး၊ ဦးတင့်ဦး၊ ဦးဇော်ထိုက် နှင့် ဦးမိုးသန်းချစ်တို့၏အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော ရန်ကုန်တိုင်း ဒေသကြီး၊ မှော်ဘီမြို့နယ်၊ လိပ္ပတ် ကျေးရွာအုပ်စု ၊ ကွင်းအမှတ်(၅၆၀-စီ) ၊ ဦးပိုင်အမှတ် ၇၂/၁၊ ၇၇ ၊ ၇၇/၁၊ ၇၈ ၊ ၃+၇၄/၂ ရှိ မြေ(၂၄.၈၆)ဧက တွင် ဘီယာထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြ ချက် အား (၉-၁၁-၂၀၁၁) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၃/၂၀၁၁) အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သည် မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်း ထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) အား ဘီယာထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ -၈၂၁/၂၀၁၁ ကို ထုတ်ပေးလိုက်သည်။

၂။ မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ တွင် မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့်အညီ အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာ ခွင့်များကို ခံစား ခွင့်ပြုနိုင် ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့်ခံစားနိုင်ရန် အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလ အတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏ ကို ဖော်ပြလျှက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤ ကော်မရှင် သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့် အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြ လျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရံပုံငွေ ထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေ အပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးမတည် ပစ္စည်းများ အပေါ် အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(စ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦးရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွက် ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရန် ပြည်ပမှတင်သွင်းသည့် လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန် နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ် ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ)နှင့်(ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) သည် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြ ထားသည့် <u>ထုတ်လုပ်မှု ရည်မှန်းချက်များ ကို အနိမ့်ဆုံး ရည်မှန်းချက်များ</u> အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၅။ မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) သည် ဤအဆိုပြုလုပ်ငန်း၏စာရင်းများကိုသီးခြားပြုစုထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရ မှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၇။ မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) သည် ပြည်တွင်း/ ပြည်ပ ဈေးကွက်ပိုင်း ဆိုင်ရာ တို့နှင့် စပ်လျဉ်း၍ အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

၈။ မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) သည် နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှုဥပဒေ ဆိုင်ရာ လုပ်ထုံး လုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့် အညီ ဤကော်မရှင်သို့ သီးခြားတင်ပြလျှောက်ထားရမည်။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ အလုပ်သမားများ သက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင် သာယာရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၉။ မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) သည် ဤ ခွင့်ပြုမိန့် အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေ ထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် ပတ်ဝန်း ကျင်ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံ ကတိပြုထားသည့် အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်။ ယင်းသို့ဆောင်ရွက်ထားမှု အခြေ အနေကို ဤကော်မရှင် သို့ မပျက်မကွက် အစီရင်ခံ ရမည်။

၁၀။ မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) သည် ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေအရ ပြည်နယ်/တိုင်း စက်မှု ကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက် ရမည်။

၁၁။ မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) သည် ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး)လ အတွင်း ဤ ကော်မရှင် သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လတစ်ကြိမ် (ဧပြီ/အောက်တိုဘာလများ) မပျက်မကွက် ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင် သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)ပြောင်းလဲမှု ရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၃။ မဟာမိတ်ဘီယာချက်လုပ်ရေးကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီး ဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေး တွေ့ရှိပါက ဤခွင့်ပြုမိန့် ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်း ခံရ မည်။

၁၄။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာ က စစ်ဆေး တွေ့ရှိလျှင် စက်ရုံ ပိတ်သိမ်းနိုင်ရေး အတွက်သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စာရင်း၌ ထည့်သွင်းခြင်း ခံရမည်။

၁၅။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(စိုးသိန်း)
ဥက္ကဋ္ဌ

စာအမှတ်၊ရကဓ-၆(က) /မ-၁၁၈၆/၂၀၁၁(၁၃၈၈၄-၈)
ရက် စွဲ ၊ ၂၀၁၁ ခုနှစ်၊ နိုဝင်ဘာလ ၁၅ ရက်

<u>ဖြန့်ဝေခြင်း-</u>

၁။ သမ္မတဦးစီးရုံး။
၂။ ဒုတိယသမ္မတ(၁)ဦးစီးရုံး။
၃။ ဒုတိယသမ္မတ(၂)ဦးစီးရုံး။
၄။ ပြည်ထောင်စုအစိုးရအဖွဲ့ရုံး။
၅။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ။
၆။ ပြည်ထဲရေးဝန်ကြီးဌာန။

၇။ ဆောက်လုပ်ရေးဝန်ကြီးဌာန။

၈။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။

၉။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၁၀။ အလုပ်သမား ဝန်ကြီးဌာန။

၁၁။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၂။ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန။

၁၃။ အမှတ်(၁)စက်မှုဝန်ကြီးဌာန။

၁၄။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။

၁၅။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၁၆။ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ရန်ကုန်မြို့။

၁၇။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန။

၂၀။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှု ဦးစီးဌာန။

၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း။

၂၅။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၆။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၇။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၃၀။ အုပ်ချုပ်မှု ဒါရိုက်တာ ၊ မဟာမိတ်ဘီယာရူပါရီကုမ္ပဏီလီမိတက်
(Alliance Brewery Co., Ltd.)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန

## ပြည်တွင်းအခွန်များဦးစီးဌာန

## ဂုဏ်ပြုမှတ်တမ်းလွှာ

၂၀၁၀–၂၀၁၁ ဘဏ္ဍာနှစ်အတွင်း တစ်နိုင်ငံလုံးတွင် ကုန်သွယ်လုပ်ငန်းခွန် သတ္တမအများဆုံး ထမ်းဆောင်ခဲ့သော International Beverages Trading Co;Ltd. သည် နိုင်ငံတော်အတွက် တာဝန်ကျေပွန်စွာဖြင့် အခွန်ထမ်းဆောင်နိုင်ခဲ့သည့်အပြင် တိုင်းပြည်စီးပွားရေး ဖွံ့ဖြိုးတိုးတက်စေရန်လည်း တစ်ထောင့်တစ်နေရာမှ ပါဝင်ကြိုးပမ်းအားထုတ်ခဲ့မှုအပေါ် ပြည်တွင်းအခွန်များဦးစီးဌာနမှ ဂုဏ်ပြုမှတ်တမ်းတင်ပါကြောင်းနှင့် လာမည့်အနာဂတ်ကာလများတွင်လည်း စီးပွားရေးလုပ်ငန်းများ ဆတက်ထမ်းပိုးတိုးတက်ပြီး နိုင်ငံတော်နှင့် ပြည်သူတစ်ရပ်လုံး၏ အကျိုးစီးပွားများကိုထမ်းရွက်နိုင်ပါစေကြောင်း ဆုမွန်ကောင်းတောင်းအပ်ပါသည်။

( မြင့်ဇော် )

ညွှန်ကြားရေးမှူးချုပ်

ရက် စွဲ၊ ၂၀၁၁ ခုနှစ်၊ ဩဂုတ်လ ၄ ရက်
နေ ရာ၊ နေပြည်တော်

(မနသ - ၂)
ဝင်စာအမှတ် ၁၁၈၈၄-ခ
ရက်စွဲ ၁၅-၁၁-၂၀၁၁
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

MIC

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ........၈၂၃................ / ၂၀ ၁၁ ။ ၂၀ ၁၁ ခုနှစ်၊ နိုဝင်ဘာ လ ၁၅ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ......ဦးအောင်မိုးကျော်................................................................

(ခ) အဘ အမည် ...........................ဦးလှမြင့်................................................................

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်..............၁၂/မရက(နိုင်) ၁၀၆၃၉၇................................

(ဃ) နေရပ်လိပ်စာ ...အမှတ်(၃၈–ဘီ)၊ အင်းယားလမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

.......................................................................................................................

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်

..........................................................................(Alliance Brewery Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ..ဘီယာထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း..............

.......................................................................................................................

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ........ကွင်းအမှတ်(၅၆၀–စီ)၊ ဦးပိုင်အမှတ်–၇၂/၁၊ ၇၇၊ ၇၇/၁၊ ၇၈၊ ၃+၇၄/၂၊ လှိုင်သာယာ... လိပ်ဖွတ်ကျေးရွာအုပ်စု၊မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ......၁၅၈၈၅.၈၈ (သန်း) (အမေရိကန်ဒေါ်လာ (၁.၈၄)သန်းအပါအဝင်
စုစုပေါင်းကျပ်သန်း တစ်ထောင့် ငါးရာ ရှစ်ဆယ့် ငါးသန်း၊
ရှစ်သိန်း ၊ ရှစ်သောင်း)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ၄၀၅/၃-၂/နယက အရ လုပ်ငန်းရှင်များသည် လုပ်ငန်းမစတင်မီ စစ်ဆေးမှု ခံယူနိုင်ရန်အတွက် အချက်အလက်ပြည့်စုံသည့် အဆိုပြုလွှာ ဖြင့် အမှတ်(၁)စက်မှုဝန်ကြီး ဌာနအောက်ရှိ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနသို့ တင်ပြ လျှောက်ထားရန်လိုအပ်ပါကြောင်း၊ ယခုအခါ ပြည်တွင်းတွင် ဘီယာစက်ရုံ(၃)ရုံ ရှိရာ ကာကွယ်ရေး ဝန်ကြီးဌာန၊ မြန်မာ့ စီးပွားရေး ကော်ပိုရေးရှင်းတွင် (၁)ရုံ နှင့် နိုင်ငံတော်ငွေထည့်ဝင်ပါရှိသော ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေး ဦးပိုင်လီမိတက် တွင် (၂)ရုံ ရှိပြီး၊ ပုဂ္ဂလိကလုပ်ငန်းရှင်သို့ ခွင့်ပြုထားခြင်း မရှိပါကြောင်း၊ ၎င်း ဘီယာစက်ရုံ(၃)ရုံသည် သွင်းကုန်အစားထိုးရန်နှင့် နိုင်ငံခြားငွေ ခြိုးခြံချွေတာနိုင်ရန် ပြည်တွင်း၌ ထုတ်လုပ်ခြင်း ဖြစ်သော်လည်း အဓိကကုန်ကြမ်းဖြစ်သော malt , hop နှင့် yeast တို့ကို နိုင်ငံခြားမှ တင်သွင်းရ ပါကြောင်း၊ သို့ဖြစ်ပါ၍ အဆိုပြု ကုမ္ပဏီအနေဖြင့် ဘီယာထုတ်လုပ်ရာတွင် အဓိက ကုန်ကြမ်းဖြစ်သော malt , hop နှင့် yeast တို့ကို ပြည်ပမှ တင်သွင်းမှု အပြင် ပြည်တွင်းတွင် ထုတ်လုပ်နိုင်ရေးကိုပါ စီမံဆောင်ရွက် သင့်ပါကြောင်း နှင့် အဆိုပြုလွှာပြုစု၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသင့် ပါကြောင်း ” သဘောထား ပြန်ကြားထားပါ သည်။(နောက်ဆက်တွဲ-ခ)

၄။ လုပ်ငန်း အဆိုပြုချက်ကို (<u>နောက်ဆက်တွဲ - ဂ</u>)ဖြင့် ဖော်ပြထားပါသည်။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ (၁.၈၄)သန်းအပါအဝင် ကျပ် (၁၅၈၅.၈၈) သန်း ဖြစ်ပါသည်။ လုပ်ငန်းအတွက် လိုအပ်သော စက် ပစ္စည်းများ အမေရိကန်ဒေါ်လာ (၁.၈၄)သန်း ဖိုးအားပြည်ပ မှ ဝယ်ယူမည် ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမည့် အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

**<u>စုစုပေါင်းရင်းနှီးမြှုပ်နှံမှု</u>** **<u>ကျပ် ၁၅၈၅.၈၈ သန်း</u> (US$ ၁.၈၄ သန်း အပါအဝင်)**

(က) စက်ပစ္စည်းကိရိယာများ ၁၁.၀၃ (US$ ၁.၈၄ သန်း )

(ခ) အဆောက်အဦ ၁၄၃၃.၇၆

(ဂ) မြေ ၁၄၁.၀၉

၅။ လျှပ်စစ်ဓါတ်အားကို ရန်ကုန်မြို့တော်လျှပ်စစ်ဓါတ်အားပေးရေးအဖွဲ့မှ ခွင့်ပြုထားသော (၃၃/၁၁)ကေဗွီ၊ (၃)အမ်ဗွီအေ ခွဲရုံ မှ ရယူမည် ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၆။ အဆိုပြုလုပ်ငန်းမှဘီယာများထုတ်လုပ်မည်ဖြစ်ပြီး၊ ပုံမှန်နှစ်တွင်ထုတ်လုပ်နိုင်မှုနှင့် ဝင်ငွေများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဥ် | အမျိုးအစား | ထုတ်လုပ်မှု | ဝင်ငွေ (ကျပ်သန်း) | ထုတ်လုပ်မည့် ကာလ |
|---|---|---|---|---|
| ၁။ | KEG (စည်) | ၂၉၂၆၅၈ | ၈၄၂၉ | ၂၀၀၄ မှ ၂၀၂၃ အထိ |
| ၂။ | Bottle(ပုလင်း) | ၇၂၃၃၁၆၂ | ၅၈၁၉ | ၂၀၀၄ မှ ၂၀၂၃ အထိ |
| ၃။ | Can(သံဗူး) | ၁၄၈၅၄၆၃၅ | ၅၂၂၉ | ၂၀၂၁ မှ ၂၀၂၃ အထိ |

၇။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

အမေရိကန်တစ်ဒေါ်လာ= ၆ ကျပ်

| | နိုင်ငံခြားငွေဖြင့် US$(သန်း) | ညီမျှသော ကျပ်(သန်း) | ကျပ်ငွေဖြင့် ကျပ်(သန်း) | စုစုပေါင်းကျပ် ကျပ်(သန်း) |
|---|---|---|---|---|
| ဝင်ငွေ | - | - | ၂၅၂၇၁.၁၆ | ၂၅၂၇၁.၁၆ |
| အသုံးစရိတ် | - | - | ၁၆၃၂၃.၉၅ | ၁၆၃၂၃.၉၅ |
| အသားတင် အမြတ် | - | - | ၈၉၄၇.၂၁ | ၈၉၄၇.၂၁ |

အမေရိကန်တစ်ဒေါ်လာ= ၈၀၀ကျပ်

| | နိုင်ငံခြားငွေဖြင့် US$(သန်း) | ညီမျှသော ကျပ်(သန်း) | ကျပ်ငွေဖြင့် ကျပ်(သန်း) | စုစုပေါင်းကျပ် ကျပ်(သန်း) |
|---|---|---|---|---|
| ဝင်ငွေ | - | - | ၂၅၂၇၁.၁၆ | ၂၅၂၇၁.၁၆ |
| အသုံးစရိတ် | - | - | ၁၉၇၃၁.၁၆ | ၁၉၇၃၁.၁၆ |
| အသားတင်အမြတ် | - | - | ၅၅၄၀.၀၀ | ၅၅၄၀.၀၀ |

၈။ နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ် လုပ်ငန်း ခွန်ကျပ် (၈၇၇၈.၄၀) သန်း နှင့်ဝင်ငွေခွန်ကျပ်(၃၈၃၄.၅၂)သန်း ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း၏အရင်းကြေ ကာလမှာ (၁)နှစ် နှင့် (၆)လ ဖြစ်ပြီး၊ အရင်းအနှီးပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း IRR မှာ (၂၈.၂)% ဖြစ်ပါသည်။

၉။ လုပ်ငန်းဆောင်ရွက်ရန်ပြည်တွင်းမှလုပ်သား (၁၆၃) ဦး ခန့်ထားမည် ဖြစ်ပြီး၊ နိုင်ငံခြားသားပညာရှင်(၃၀)ဦးအား ခန့်ထားမည်ဖြစ်ကြောင်းတင်ပြထားပါသည်။ ဝန်ထမ်းသက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင် သာယာရေး အတွက် စီစဉ်ပေး ထားပါကြောင်း ကုမ္ပဏီမှ တင်ပြထား ပါသည်။

၁၀။ ငွေကြေး အထောက်အထားအဖြစ် ကုမ္ပဏီ အမည်ဖြင့် ကမ္ဘောဇဘဏ် လီမိတက် ရှိ (၆-၁၀-၂၀၁၁) နေ့ရှိ ငွေလက်ကျန် ကျပ်(၁၅၀၀.၀၀) သန်း (သုံးစွဲမည့်ကျပ်ငွေ၏ ၁၀၅%) နှင့် နိုင်ငံခြားငွေ အထောက် အထား အဖြစ် ကုမ္ပဏီအမည်ဖြင့် (၂၀-၁၀-၂၀၁၁) နေ့ရှိ ငွေလက်ကျန် အမေရိကန် ဒေါ်လာ (၁.၈၄)သန်း (သုံးစွဲမည့်နိုင်ငံခြားငွေ၏ ၁၀၀ %) ရှိကြောင်း တင်ပြထားပါသည်။

၁၁။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများ သာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မီးဘေးအန္တရာယ်မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင်

ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်းဒေသကြီးရ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာနတွင်မှတ်ပုံတင်ထားရှိမည်ဖြစ်ကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များ ကို လိုက်နာ ဆောင်ရွက် သွားမည် ဖြစ်ကြောင်း ဝန်ခံ ကတိပြုထားပါသည်။ ထို့ပြင် သဘာဝ ပါတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဥ်များ၊ ရေဆိုးသန့်စင်စက်ရုံ တည်ဆောက်ရန် အစီအစဥ်များနှင့် သွင်းကုန်အစားထိုး စီမံကိန်းများကိုလည်း တင်ပြထားပါသည်။

၁၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကိုလည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကိုလည်းကောင်း ခံစားခွင့်ပြုရပါမည်။

၁၃။ သို့ဖြစ်ပါ၍ မဟာမိတ်ဘီယာရှင်ကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) မှ ရန်ကုန်တိုင်း ဒေသကြီး၊ မှော်ဘီမြို့နယ်တွင် ဘီယာထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်းအပေါ် လမ်းညွှန်မှု ခံယူအပ်ပါသည်။

အတွင်းရေးမှူး(ကိုယ်စား)
(အောင်နိုင်ဦး၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူ - ရုံးလက်ခံ

**ဆုံးဖြတ်ချက်**

၁၂။ အောက်ပါအတိုင်း ဆောင်ရွက်ရန် ဆုံးဖြတ်ကြပါသည် -

| စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|
| (က) | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၂/၂၀၁၁) ကြိမ်မြောက် အစည်းအဝေး မှတ်တမ်းအား အတည်ပြုရန်၊ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် |
| (ခ) | သုခစေတနာ ကုမ္ပဏီလီမိတက် (Thukha Saytanar Co., Ltd.) မှ နိုင်ငံတကာ အဆင့်မီ ဝိတိုရိယ ဆေးရုံကြီး တည်ထောင်၍ ဆေးဝါးကုသမှု လုပ်ငန်း အတွက် ဆေးဝန်ဆောင်မှုလုပ်ငန်းနှင့် ယင်းနှင့် ဆက်နွယ်သည့် ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုရန် မူအရခွင့်ပြုရန်နှင့် ရန်ကုန်မြို့တော်စည်ပင်သာယာရေး ကော်မတီနှင့် ချုပ်ဆိုထားသည့် လက်ရှိ BOT စာချုပ်ကို ရပ်ဆိုင်းကာ လိုအပ်သလို ထပ်မံပြင်ဆင်ချုပ်ဆို၍ BOD ကိုလည်း လိုအပ်သလို ပြင်ဆင်ဖွဲ့စည်းကာ ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် နှင့်အတူ ကော်မရှင်သို့ ပြန်လည်တင်ပြရန်၊ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်<br>ကျန်းမာရေး ဝန်ကြီးဌာန |
| (ဂ) | မဟာမိတ် ဘရူဝါရီ ကုမ္ပဏီလီမိတက် (Alliance Brewery Co., Ltd.) မှ ရန်ကုန်တိုင်း ဒေသကြီး၊ မှော်ဘီမြို့နယ်တွင် ဘီယာထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းအား သဘောတူခွင့်ပြုရန်၊ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်<br>အမှတ် (၁) စက်မှု ဝန်ကြီးဌာန |
| (ဃ) | လူငယ်အားမာန် ဟိုတယ်လုပ်ငန်း ကုမ္ပဏီလီမိတက် (Youth Force Hotel Co., Ltd.) မှ ယခင် နိုင်ငံခြားရေးရာဝန်ကြီးဌာန ရုံးနေရာအား B.O.T စနစ်ဖြင့် ငှားရမ်း၍ June XI Business centre & Services Apartment လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြခြင်းကို သဘောတူခွင့်ပြုရန်၊ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်<br>ဆောက်လုပ်ရေး ဝန်ကြီးဌာန |
| (င) | ချီဖွေ ရေအားလျှပ်စစ်စီမံကိန်း လုပ်ငန်းမှ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ရောင်းချ ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကို သဘောတူခွင့်ပြုရန်၊ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်<br>အမှတ် (၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန |

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မတီ

သို့

# မဟာမိတ်ဘာရှူဝါရီကုမ္ပဏီလီမိတက်

၏

# ဘီယာချက်စက်ရုံတည်ဆောက်ရန်
# အဆိုပြုချက်

ရက်စွဲ။ ။၃၀ရက်၊အောက်တိုဘာလ၊၂၀၁၁

**Alliance Brewery Company Limited**
No. R-18, S-19, Sittaung Street, Pyinnyawaddy Avenue, Yankin Township, Yangon, Union of Myanmar.
Tel : 95-1-559833, 551616 Fax : 95-1-559876

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
နေပြည်တော်။

ရက်စွဲ။ ။ ၂၀၁၁ခုနှစ်၊ စက်တင်ဘာလ (၃၀) ရက်။

**အကြောင်းအရာ။ ။ IBTC ကုမ္ပဏီစုမှ မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာ တင်ထား** သော ကုမ္ပဏီအသစ်၏အမည်ကိုတင်ပြခြင်း။

လူကြီးမင်းခင်ဗျား၊

ကျွန်တော်များ၏ IBTC ကုမ္ပဏီစုမှ ၃၀-၈-၂၀၁၁ နေ့စွဲဖြင့် အမျိုးသားစီမံကိန်းနှင့် **စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာနသို့** ဘီယာထုတ်လုပ်ရောင်းချခွင့်ပြုပါရန် လျှောက်ထားခဲ့ရာတွင် IBTC ကုမ္ပဏီစုအနေဖြင့် လျှောက်ထားခဲ့ပါသည်။ ယခုအခါဘီယာ ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းကို Alliance Brewery Company Limited ဟူသောအမည်ဖြင့် ကုမ္ပဏီဖွဲ့စည်း၍ လျှောက်ထား ခွင့်ပြုပါရန် လေးစားစွာဖြင့်တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးအောင်မိုးကျော်
ဒါရိုက်တာ
မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်

**Alliance Brewery Company Limited**

No. R-18, S-19, Sittaung Street, Pyinnyawaddy Avenue, Yankin Township, Yangon, Union of Myanmar.

Tel : 95-1-559833, 551616 Fax : 95-1-559876

---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
နေပြည်တော်။

ရက်စွဲ။ ၂၀၁၁ခုနှစ်၊ စက်တင်ဘာလ (၃၀) ရက်။

**အကြောင်းအရာ။** ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်ပေးပို့ခြင်း။

မဟာမိတ်ဘရူဝါရီ ကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်း၊ မှော်ဘီမြို့နယ်၊ လိပ္ပတ်ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၅၆၀)၊ လန (၃၉) ခွင့်ပြုမိန့်ရရှိပြီးသော မြေဧရိယာ (၂၄.၈၆) ဧကပေါ်တွင် ဘီယာချက်စက်ရုံအသစ်တည်ဆောက်နိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ ခွင့်ပြုမိန့် ထုတ်ပေးနိုင်ပါရန် အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာ (၂၀) စုံ ပေးပို့တင်ပြလျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

ဦးအောင်မိုးကျော်
ဒါရိုက်တာ
မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်

# Alliance Brewery Company Limited

No. R-18, S-19, Sittaung Street, Pyinnyawaddy Avenue, Yankin Township, Yangon, Union of Myanmar.
Tel : 95-1-559833, 551616 Fax : 95-1-559876

သို့

ဉက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
နေပြည်တော်။

ရက်စွဲ။ ။ ၂၀၁၁ခုနှစ်၊ စက်တင်ဘာလ (၃၀) ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုမိန့် ထုတ်ပေးပါရန် နှင့် ယင်းဥပဒေအရ၊ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များ ခံစားခွင့်ပြုပါရန် လျှောက်ထားခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ ကျွန်တော်များ မဟာမိတ်ဘရူဝါရီ ကုမ္ပဏီ လီမိတက်အနေဖြင့် ရန်ကုန်တိုင်း၊ မှော်ဘီမြို့နယ်၊ လိပ္ပတ်ကျေးရွာအုပ်စု ကွင်းအမှတ် (၅၆၀)၊ လန (၃၉) ခွင့်ပြုမိန့်ရရှိပြီးသော မြေဧရိယာ (၂၄.၈၆) ဧကပေါ်တွင် ဘီယာချက်စက်ရုံ တည်ဆောက်ပြီး၊ ဘီယာထုတ်လုပ်၍ ပြည်တွင်းတွင် ရောင်းချသည့်လုပ်ငန်း လုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

၂။ ကျွန်တော်များကုမ္ပဏီသည် အဆိုပါလုပ်ငန်းအတွက် မတည်ရင်းနှီးငွေ ကျပ်သန်းပေါင်း (၁၀၀၀၀) ထည့်ဝင်ရင်းနှီးမည်ဖြစ်ပြီး Phase 1 Year 1 2012 တွင် ကျပ်သန်းပေါင်း (၃၀၀၀)နှင့် Phase 1 Year 2 2013 တွင် ကျပ်သန်းပေါင်း(၇၀၀၀) ရင်းနှီးမြှုပ်နှံ ကြမည်ဖြစ်ပါသည်။

၃။ ကျွန်တော်များကုမ္ပဏီသည် နိုင်ငံတကာအဆင့်မီ စက်ရုံတည်ဆောက်၍ ဘီယာ ထုတ်လုပ်ခြင်း လုပ်ငန်းလုပ်ကိုင်ပြီး ပြည်တွင်းတွင် ရောင်းချခြင်းအားဖြင့် ပြည်ပမှ ဘီယာတင်သွင်းမှုကို လျှော့နည်းစေပြီး နိုင်ငံခြားငွေများ စီးထွက်မှုကို လျှော့နည်းစေရန်၊ နိုင်ငံတော်အတွက်အခွန် ဘဏ္ဍာငွေများတိုးပွားလာစေရန်၊ နိုင်ငံတော်အတွင်း ခေတ်မီပညာရပ်များ တိုးပွားရရှိစေရန်၊ မြန်မာနိုင်ငံသားများ အတွက် အလုပ်အကိုင်အခွင့်အလမ်းများ ပေါ်ပေါက်လာစေရန် နှင့် နိုင်ငံတော်၏ ဘက်စုံစီးပွားရေး၊ ဖွံ့ဖြိုးတိုးတက်မှုကို အရှိန်အဟုန်မြင့်၍ ထောက်ကူပံ့ပိုးပေးနိုင်ရန် စသည့်အကျိုးစီးပွားများ ဖြစ်ထွန်း ပေါ်ပေါက်စေသည့်အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဤအဆိုပြုချက်ကို လက်ခံ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် (Permit) ထုတ်ပေးနိုင်ပါရန် လျှောက်ထားအပ်ပါသည်။

**Alliance Brewery Company Limited**

No. R-18, S-19, Sittaung Street, Pyinnyawaddy Avenue, Yankin Township, Yangon, Union of Myanmar.

Tel : 95-1-559833, 551616 Fax : 95-1-559876

---

၄။ ကျွန်တော်များကုမ္ပဏီအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်၊ သက်သာခွင့်များ ခံစားခွင့်ပြုပါရန် လေးစားစွာ တင်ပြအပ်ပါသည်။

၅။ ဤအဆိုပြုချက်နှင့်အတူ အောက်ဖော်ပြပါ စာရွက်စာတမ်းအထောက်အထားများကို ပူးတွဲ တင်ပြအပ်ပါသည်။

(၁) ကမကထပြုသူ၏ လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက် (မနသ–ပုံစံ)

(၂) ကုမ္ပဏီ၏သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်းများ

(၃) ဘဏ္ဍာရေးဆိုင်ရာ အချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုများ စသည်တို့ ဖြစ်ပါသည်။

၆။ သို့ပါ၍ ဤအဆိုပြုချက်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ လက်ခံခွင့်ပြုပြီး အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များ ခံစားခွင့်ပြုပါရန် နှင့် ခွင့်ပြုမိန့် **(Permit)** ထုတ်ပေးပါရန် လေးစားစွာဖြင့် လျှောက်ထားအပ်ပါသည်။

လျှောက်ထားသူ

ဦးအောင်မိုးကျော်
ဒါရိုက်တာ
မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်

**Alliance Brewery Company Limited**

No. R-18, S-19, Sittaung Street, Pyinnyawaddy Avenue, Yankin Township, Yangon, Union of Myanmar.

Tel : 95-1-559833, 551616 Fax : 95-1-559876

---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
နေပြည်တော်။

ရက်စွဲ။ ။ ၂၀၁၁ခုနှစ်၊ စက်တင်ဘာလ (၃၀) ရက်။

အကြောင်းအရာ။ ။ ဘီယာစက်ရုံတည်ဆောက်မည့်စီမံကိန်းအကျဉ်းချုပ်အားတင်ပြခြင်း။

<u>ဘီယာထုတ်လုပ်ရေးစီမံကိန်း</u>

<u>နိဒါန်း</u>

ဘီယာစက်ရုံတည်ဆောက်ရန် စီမံကိန်းကို အဆိုပြုသည့် အစုရှင်များမှာ ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန၊ ပြည်တွင်းအခွန်ဦးစီးဌာနသို့ ဝင်ငွေခွန်နှင့် ကုန်သွယ်ခွန်များ အချိန်မှန်မှန်နှင့်အများဆုံးပေးဆောင်ရာတွင် ၂၀၁၀-၂၀၁၁ ဘဏ္ဍာရေးနှစ်များတွင် အမှတ်စဉ် (၁) မှ (၁၀) အတွင်း နေရာရရှိထားသော IBTC နှင့် MWDC တို့မှ အစုရှင်များဖြစ်ပါကြောင်း တင်ပြ အစီရင်ခံပါသည်။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ အမျိုးသားဝင်ငွေ (National Income) ခွဲဝေပုံနှံ့မှု (Income distribution) အမျိုးအစား၊ ကုန်စည်စားသုံးမှုပုံစံ (Consumption pattern) စသည့် အချက်အလက်များကို အခြေခံ၍ မဟာမိတ်ဘရူဝါရီ ကုမ္ပဏီသည် မြန်မာနိုင်ငံဘီယာဈေးကွက် အတွင်းသို့ ဝင်ရောက်နိုင်ရန်အတွက် လိုအပ်သော လေ့လာခန့်မှန်းမှုများကို ကြိုတင်ဆောင်ရွက်ခဲ့ပြီး ဖြစ်ပါသည်။

မဟာမိတ်ဘရူဝါရီ ကုမ္ပဏီလီမိတက် သည် မြန်မာနိုင်ငံအဖျော်ယမကာ ဈေးကွက်တွင် အရည်အသွေး မြင့်မားသော ကုန်ပစ္စည်းကို ထုတ်လုပ်၍ ဈေးကွက်တွင် ဖြန့်ဖြူးရောင်းချခဲ့သည့် အတွေ့အကြုံရှင့် ကုမ္ပဏီကြီးတစ်ခုဖြစ်သည့် (IBTC) ၏ အစုရှင်များမှ တည်ထောင်မည့်ကုမ္ပဏီတစ်ခုဖြစ်ပါသည်။ မြန်မာဘီယာဈေးကွက်တွင် လောလောဆယ် အဓိကနေရာယူ ဖြန့်ဖြူးရောင်းချနေသည့် နိုင်ငံခြားကုမ္ပဏီများနှင့် ရင်ဘောင်တန်းယှဉ်ပြိုင်နိုင်ရန်အတွက် **ဘီယာကုမ္ပဏီတစ်ခု**ကို တည်ထောင်ဆောင်ရွက်လိုပါသည်။

**Alliance Brewery Company Limited**

No. R-18, S-19, Sittaung Street, Pyinnyawaddy Avenue, Yankin Township, Yangon, Union of Myanmar.

Tel : 95-1-559833, 551616 Fax : 95-1-559876

အတွေ့အကြုံရင့် ကုမ္ပဏီကြီးဖြစ်သည့် (IBTC) ၏ စွမ်းဆောင်ရည်မြင့်မားမှုနှင့် ဒေသတွင်း ဈေးကွက်အတွေ့အကြုံများတို့ဖြင့် မြန်မာနိုင်ငံ ဘီယာဈေးကွက်အတွင်းသို့ ဝင်ရောက်ယှဉ်ပြိုင်ပြီး သင့်တင့်သော ဈေးကွက်ဝေစုတစ်ခုကို ကောင်းစွာရရှိလိမ့်မည်ဟု ယုံကြည်ပါသည်။

<u>အကောင်အထည်ဖော်ဆောင်ရွက်မည့် လုပ်ငန်းစဉ်</u>

ဘီယာချက်စက်ရုံနှင့် ဘီယာချက်လုပ်မည့်လုပ်ငန်းစဉ်များကို အဆင့်မြင့် ဂျာမန်နည်းပညာ၊ စံချိန်စံညွှန်းများနှင့်အညီ စက်ပစ္စည်းများ တင်သွင်းတည်ထောင် ထုတ်လုပ်မည်ဖြစ်ပါသည်။ ဆောင်ရွက်မည့် ဘီယာချက်လုပ်ငန်းစဉ်သည် သဘာဝဘေးအန္တရာယ်နှင့် ဝန်ထမ်းအလုပ်သမား များအား ထိခိုက်မှု မရှိစေရန်အတွက် စက်ရုံပုံစံဒီဇိုင်းရေးဆွဲရာတွင်လည်း အထူးဂရုပြု ထည့် သွင်းပြီး တည်ဆောက်သွားရန်ဖြစ်ပါသည်။

ထိုသို့အဆင့်မြင့် နည်းပညာများဖြင့် ဆောင်ရွက်ရာတွင် အရင်းအမြစ်များဖြစ်သည့် လုပ်သားအင်အား၊ လောင်စာ နှင့် စွမ်းအင်ကုန်ကြမ်းပစ္စည်းများကို အလေအလွင့်မရှိစေရန်လည်း ကောင်း၊ သဘာဝပတ်ဝန်းကျင်အတွက် ဆိုးကျိုးသက်ရောက်နိုင်မည့် ဓာတုပစ္စည်းနှင့် အခြား အရောအနှောများ မပါဝင်စေရန်လည်းကောင်း အကျိုးရှိရှိ စွမ်းဆောင်ရည်ပြည့်ဝစွာ အသုံးချ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

<u>သဘာဝပတ်ဝန်းကျင်သန့်ရှင်းရေး</u>

<u>ရေဆိုးသန့်စင်ခြင်း</u>

ဘီယာချက်စက်ရုံတွင် ရေဆိုးသန့်စင်ခြင်းစနစ်ကို စက်ရုံစတင်တည်ထောင်သည့် ကနဦး ကာလကပင် ထည့်သွင်းတည်ဆောက်မည်ဖြစ်ပါသည်။ ထွက်ရှိလာမည့် ရေဆိုးများကို ပထမအဆင့်၊ ဒုတိယအဆင့် နှင့် တတိယအဆင့်စသည်ဖြင့် အဆင့်ဆင့် သန့်စင်သွားမည် ဖြစ်ပါသည်။ ထိုသို့သန့်စင်ရာတွင် ခဲ၊ ကျောက်၊ အမှုန်အမွှားများကို ဇကာစိပ်များဖြင့် စစ်ခြင်း၊ ကျောက်ဖြုန်းများနှင့် အနယ်များကို အတန်းလိုက် ခွဲခြားစစ်ထုတ်ခြင်း၊ ဇီဝဓာတုဆိုင်ရာ အောက်ဆီဂျင်မဲ့ပစ္စည်းများကို အောက်ဆီဂျင်ရရှိအောင် ဓာတ်ပြုသော ကန်များတည်ဆောက်ပြီး ရေပန်းရေတံခွန်စနစ် ရေငွေ့ပျံစေခြင်းစနစ်များဖြင့် ဆောင်ရွက်မည်ဖြစ်ပါသည်။ ဤစနစ်ကို တပ်ဆင်အသုံးပြုခြင်းနှင့် ပတ်သက်၍ ခန့်မှန်းကုန်ကျစရိတ်များကို ပဏာမလေ့လာမှု အစီရင် ခံစာတွင် ထည့်သွင်းဖော်ပြထားပါသည်။

**Alliance Brewery Company Limited**

No. R-18, S-19, Sittaung Street, Pyinnyawaddy Avenue, Yankin Township, Yangon, Union of Myanmar.

Tel : 95-1-559833, 551616  Fax : 95-1-559876

ရေဆိုးသန့်စင်စက်ရုံကို စံချိန်စံညွှန်းများနှင့်အညီ တည်ထောင်ဆောင်ရွက်ထားခြင်းဖြင့် ပတ်ဝန်းကျင်နှင့် အနီးအနားစက်ရုံအလုပ်ရုံများသို့ ရေဆိုး၊ အနံ့ဆိုးများရောက်ရှိလာပါကလည်း ဘေးဥပါဒ်မပေးနိုင်သည့် ပမာဏအနည်းဆုံးအဆင့်အထိ လျှော့ချပေးနိုင်လိမ့်မည်ဟု မဟာမိတ်ဘရူဝါရီကုမ္ပဏီက ယုံကြည်ပါသည်။ ရေဆိုးသန့်စင်ခြင်းလုပ်ငန်းကို အာဆီယံစံချိန်စံညွှန်းများနှင့် အညီ ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

<u>မီးဘေးအန္တရာယ်ကာကွယ်ခြင်း</u>

ဘီယာစက်ရုံကို ဘီယာချက်လုပ်သည့် လုပ်ငန်းနယ်ပယ်အတွင်းတွင် မီးလောင်နိုင်သောပစ္စည်းများ လုံးဝမရှိခြင်း (သို့မဟုတ်) နည်းနိုင်သမျှနည်းသည့် **မီးဘေးအန္တရာယ်အနည်းဆုံး စက်မှု** လုပ်ငန်းအဖြစ် ပုံစံထုတ် ဒီဇိုင်းရေးဆွဲထားပါသည်။

မီးဘေးအန္တရာယ်အဓိကဖြစ်နိုင်သည့်နေရာမှာ လောင်စာသုံး ဘွိုင်လာများထားရှိသည့် အဓိကစွမ်းအင်အသုံးပြုရာ နေရာတစ်ခုတည်းသာရှိပါသည်။ မီးသတ်ဆေးဘူးများကို လွယ်လင့်တကူအသုံးပြုနိုင်ရန် စက်ရုံ၏ နေရာတိုင်းတွင် ထားရှိထားပါမည်။ မြန်မာနိုင်ငံမီးသတ်ဦးစီးဌာန၏လမ်းညွှန်မှုကိုခံယူ၍ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်နိုင်ရန်အတွက် အသေးစိတ် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

<u>လုပ်သားအင်အား</u>

ဘီယာစက်ရုံတွင် တာဝန်ထမ်းဆောင်ကြမည့်လုပ်သားအင်အားတရပ်လုံးသည် ကျန်းမာရေးနှင့် ညီညွှတ်ပြီး စွမ်းရည်ပြည့်ဆောင်ရွက်နိုင်မည့် ကျွမ်းကျင်ဝန်ထမ်းများဖြစ်လာသည့်တိုင်အောင် အဆင့်ဆင့် ပညာပေးလေ့ကျင့်သင်ကြားပေးသွားမည်ဖြစ်ပါသည်။

ထုတ်လုပ်ရေးဝန်ထမ်းဦးရေကို လုပ်ငန်းစတင်လည်ပတ်သည့် ကနဦးကာလတွင် (၁၀၀) ဟု သတ်မှတ်ထားသော်လည်း အရောင်းနှင့် ထုတ်လုပ်မှုတိုးတက်လာသည်နှင့်အမျှ ဝန်ထမ်းဦးရေကို (၁၅၀) အထိ တိုးချဲ့ခန့်ထားမည်ဖြစ်ပြီး ဤလေ့လာမှုတွင် ဈေးကွက်ရှာဖွေရေးနှင့် ဖြန့်ဖြူးရောင်းချမှု မြှင့်တင်ရေးဝန်ထမ်းများမပါဝင်ပါ။

မဟာမိတ်ဘရူဝါရီ ကုမ္ပဏီသည် လုပ်သားဝန်ထမ်းနှင့် ဆက်ဆံရေးကောင်းမွန်မှုရှိသောကုမ္ပဏီတစ်ခုဖြစ်စေရန်နှင့် နိုင်ငံတကာအဆင့်မီ စွမ်းဆောင်ရည်မြင့်မားစေရန် ဘီယာလုပ်ငန်းနှင့်ပတ်သက်သော ပညာရှင်များကို ခေါ်ယူ၍ သင်ကြားစေမည်ဖြစ်ပါသည်။

**Alliance Brewery Company Limited**

No. R-18, S-19, Sittaung Street, Pyinnyawaddy Avenue, Yankin Township, Yangon, Union of Myanmar.

Tel : 95-1-559833, 551616 Fax : 95-1-559876

---

<u>ကုန်ကြမ်းများတင်သွင်းခြင်း</u>

ဘာလီအမျိုးအစားဝင် မုယောစပါးသည် ဘီယာချက်လုပ်မှုတွင် အရေးပါသော ကုန်ကြမ်းပစ္စည်းတစ်ခု ဖြစ်ပါသည်။

ဘာလီကို သဘောတရားအားဖြင့် မြန်မာနိုင်ငံအအေးပိုင်းဒေသများတွင် စိုက်ပျိုးနိုင်ပါသည်။ ဒိန်းမတ်သုတေသီများက ထိုင်းနိုင်ငံ ချိန်ရိုင်းဒေသတွင် ယင်းကိစ္စကို သုတေသနပြုလျက်ရှိပါသည်။ ရရှိသော ဆန်းစစ်ချက်များအရ ဤဒေသတွင် စမ်းသပ်စိုက်ပျိုးသော ဘာလီများ၏ အရည်အသွေးမှာ လိုအပ်သည့် အဆင့်ထက် နိမ့်နေသေးကြောင်း တွေ့ရှိရပါသည်။

IBTC ကုမ္ပဏီ၏ စိုက်ပျိုးရေးဌာနသည် ဘီယာစက်ရုံတည်ထောင်ခွင့်ရရှိသည်နှင့်တပြိုင်နက် နိုင်ငံခြားသုံးငွေ ချွေတာနိုင်ရန် မြန်မာနိုင်ငံတွင် အဆင့်မီသော ဘာလီစိုက်ပျိုးရေးကို စတင်ဆောင်ရွက်မည်ဖြစ်ပါသည်။

သမာရိုးကျဒေသအလေ့အထအရ စိုက်ပျိုးသော မုယောစပါးအမျိုးအစားကို အရင်းအနှီးငွေ အနည်းငယ်ဖြင့် သင့်တင့်သော ကာလတွင် စတင်စိုက်ပျိုးနိုင်မည်ဟု ယုံကြည်ပါသည်။

<u>ဗျစ်ပန်း</u>

ဟော့(ပ) ခေါ် ဗျစ်ပန်းသည် အအေးပိုင်းရာသီတွင် ပေါက်သော နွယ်ပင်တစ်မျိုးဖြစ်ပြီး အာရှဒေသများတွင် စမ်းသပ်စိုက်ပျိုးလျက်ရှိကြပါသည်။

ဘီယာချက်လုပ်ရာတွင် ဗျစ်ပန်းကို အခါးအရသာနှင့် ဘီယာအနံ့အတွက် နှစ်မျိုးခွဲခြား အသုံးပြုပါသည်။ IBTC ကုမ္ပဏီသည် ဗျစ်ပန်းပင်များကို မြန်မာပြည်တွင် စိုက်ပျိုးဖြစ်ထွန်းပါက အခါးအရသာအလို့ငှာ အသုံးပြုသော ဗျစ်ပန်းများကို စိုက်ပျိုးမည်ဖြစ်ပါသည်။

<u>တဆေး</u>

နိုင်ငံတကာတွင် ရရှိနိုင်သော အကောင်းဆုံးတဆေးမျိုးရိုးဗီဇများကို အခြေပြု၍ ဘီယာစက်ရုံအတွက် လိုအပ်သော တဆေးကို စက်ရုံအတွင်း တဆေးမျိုးပွားကန်များတွင်ပင် ထုတ်လုပ်မည် ဖြစ်ပါသည်။

လျှောက်ထားသူ

အောင်မိုးကျော်
ဒါရိုက်တာ
မဟာမိတ်ဘီယာချက်လုပ်ရေးကုမ္ပဏီလီမိတက်

**Alliance Brewery Company Limited**

No. R-18, S-19, Sittaung Street, Pyinnyawaddy Avenue, Yankin Township, Yangon, Union of Myanmar.

Tel : 95-1-559833, 551616 Fax : 95-1-559876

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
နေပြည်တော်။

ရက်စွဲ။ ။ ၂၀၁၁ခုနှစ်၊ စက်တင်ဘာလ (၃၀) ရက်။

အကြောင်းအရာ။ ။ တည်ဆောက်မည့် ဘီယာချက်စက်ရုံ၏ မြေနေရာရွေးချယ်သတ်မှတ်မှုနှင့် ပတ်သက်၍ ရှင်းလင်းတင်ပြ အစီရင်ခံခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်များ၏ မဟာမိတ်ဘရူဝါရီ ကုမ္ပဏီ လီမိတက်သည် ရန်ကုန်တိုင်း၊ မှော်ဘီမြို့နယ်၊ လိပ်ပွတ်ကျေးရွာအုပ်စု ကွင်းအမှတ် (၅၆၀)၊ လန (၃၉) ခွင့်ပြုမိန့်ရရှိပြီးသော မြေ (၂၄.၈၆)ဧကပေါ်တွင် စက်ရုံတည်ဆောက်၍ ဘီယာ ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းကိုလုပ်ကိုင်ခွင့်ရရှိရန်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ခွင့်ပြုမိန့် လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

၂။ ကျွန်တော်များ ကုမ္ပဏီအနေဖြင့် စုစုပေါင်း ကျပ်သန်း(၁၀၀၀၀)အထိ ရင်းနှီးမြှုပ်နှံရန် ရည်ရွယ်ထားပါသည်။ ဘီယာချက်လုပ်ရန် လိုအပ်သော စက်ပစ္စည်းများကို နိုင်ငံခြားမှ တင်သွင်း၍ တည်ဆောက်ရင်းနှီးမြှုပ်နှံရန် စီစဉ်ထားပါသည်။ ထွက်ရှိလာမည့် ဘီယာများကို ပြည်တွင်းတွင် ရောင်းချဖြန့်ဖြူး သွားမည်ဖြစ်ပါသဖြင့် လှည့်ပတ် ရန်ပုံငွေအတွက် လိုအပ်ချက်များကို ဖြည့်ဆည်းနိုင်မည်ဖြစ်ပါသည်။

၃။ ယခုစက်ရုံတည်ဆောက်မည့် မြေနေရာမှာ ရန်ကုန်တိုင်း၊ မှော်ဘီမြို့နယ်၊ လိပ်ပွတ်ကျေးရွာအုပ်စု ကွင်းအုပ်စု (၅၆၀)၊ လန(၃၉) မြေလွတ်မြေရိုင်းဧရိယာ (၂၄.၈၆)ဧကကို စက်ရုံမြေနေရာ လျှောက်ထား၍ တည်ဆောက်သွားမည်ဖြစ်ပါသည်။ သက်ဆိုင်ရာ ဒေသအာဏာပိုင်၏ တည်ဆောက်ခွင့်ပြုကြောင်း၊ ကန့်ကွက်ရန် မရှိကြောင်း သဘောထား မှတ်ချက်ကို ပါ ပူးတွဲတင်ပြထားပါသည်။

**Alliance Brewery Company Limited**

No. R-18, S-19, Sittaung Street, Pyinnyawaddy Avenue, Yankin Township, Yangon, Union of Myanmar.

Tel : 95-1-559833, 551616 Fax : 95-1-559876

---

၄။ ဘီယာများထုတ်လုပ်ရောင်းချမှု အရှိန်အဟုန်ရလာပါက လုပ်ငန်းပေါ်မှ ထိုက်သင့်သော အကျိုးအမြတ်များ ရရှိလာနိုင်မည်ဖြစ်သဖြင့် ထိုအမြတ်များကို နိုင်ငံတော်အတွက် လိုအပ်နေသည့် အခြားလုပ်ငန်းတစ်ခုခုကို အသစ်တိုးချဲ့တည်ဆောက် ရင်းနှီးသွားရန်လည်း ရည်ရွယ်ထားပါသည်။

လေးစားစွာဖြင့်

ဦးအောင်မိုးကျော်
ဒါရိုက်တာ
မဟာမိတ်ဘီယာချက်လုပ်ရေးကုမ္ပဏီလီမိတက်

**Alliance Brewery Company Limited**

No. R-18, S-19, Sittaung Street, Pyinnyawaddy Avenue, Yankin Township, Yangon, Union of Myanmar.

Tel : 95-1-559833, 551616 Fax : 95-1-559876

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
နေပြည်တော်။

ရက်စွဲ။ ။ ၂၀၁၁ခုနှစ်၊ စက်တင်ဘာလ (၃၀) ရက်။

အကြောင်းအရာ။ ။ မဟာမိတ်ဘရူ၀ါရီကုမ္ပဏီလီမိတက် ၏ ဘီယာချက်စက်ရုံ တည်ဆောက်ခြင်းလုပ်ငန်း နှင့် ပတ်သက်၍ ကတိ၀န်ခံချက် တင်ပြခြင်း။

အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံတွင် တရားဝင်ဖွဲ့စည်း တည်ထောင်မည့် မဟာမိတ်ဘရူ၀ါရီ ကုမ္ပဏီလီမိတက်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဘီယာချက်စက်ရုံ လုပ်ငန်း ဆောင်ရွက်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလျှောက်ထားခြင်း ဖြစ်ပါသည်။ ထိုသို့ လျှောက်ထားရာတွင် ခွင့်ပြုမိန့် ရရှိနိုင်ရေးအတွက် အောက်ပါတို့ကို ၀န်ခံကတိပြုပါသည်။

(က) ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း ၀န်ခံကတိပြုပါသည်။

(ခ) ဤစက်ရုံမှ ထွက်ရှိလာသော ကုန်ချောပစ္စည်းများကိုပြည်တွင်းတွင် မြန်မာကျပ်ငွေဖြင့် ရောင်းချသွားမည်ဖြစ်ပါသည်။

(ဂ) နိုင်ငံတော်အစိုးရမူဝါဒနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ကတိပြုပါသည်။

(ဃ) ထို့အပြင် ကျွန်တော်တို့ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင် ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သော စီမံချက်များ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ကြောင်းနှင့် ပြည်ထောင်စု မြန်မာနိုင်ငံတော်၏ စည်းမျဉ်း စည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန် အကောင် အထည်ဖော် ဆောင်ရွက်သွားမည်ဟု ၀န်ခံကတိပြုပါသည်။

**Alliance Brewery Company Limited**

No. R-18, S-19, Sittaung Street, Pyinnyawaddy Avenue, Yankin Township, Yangon, Union of Myanmar.
Tel : 95-1-559833, 551616 Fax : 95-1-559876

---

(င) မီးဘေးကြိုတင်ကာကွယ်မှုများပြုလုပ်ဆောင်ရွက်သွားမည်ဖြစ်ကြောင်းဝန်ခံကတိပြုပါသည်။

(စ) မဟာမိတ် ဘရူဝါရီ ကုမ္ပဏီ လီမိတက် မှ ရရှိလာသော ရောင်းရငွေများကို မြန်မာနိုင်ငံတော်အတွင်း ဖွင့်လှစ်ထားသော ပုဂ္ဂလိကနှင့် အစိုးရဘဏ်များတွင် ငွေစာရင်းများ ဖွင့်လှစ်၍ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(ဆ) မဟာမိတ်ဘရူဝါရီ ကုမ္ပဏီလီမိတက် အနေဖြင့် ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်းဒေသကြီးအရ စက်မှုကြီးကြပ်ရေး နှင့် စစ်ဆေးရေး ညွှန်ကြားမှုဦးစီးဌာနတွင် မှတ်ပုံတင်ထားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လျှောက်ထားသူ

ဦးအောင်မိုးကျော်
ဒါရိုက်တာ
မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်

**Alliance Brewery Company Limited**

No. R-18, S-19, Sittaung Street, Pyinnyawaddy Avenue, Yankin Township, Yangon, Union of Myanmar.

Tel : 95-1-559833, 551616 Fax : 95-1-559876

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
နေပြည်တော်။

ရက်စွဲ။ ။ ၂၀၁၁ခုနှစ်၊ စက်တင်ဘာလ (၃၀) ရက်။

အကြောင်းအရာ။ ။ ရာနှုန်းပြည့်(၁၀၀%) နိုင်ငံသား ရင်းနှီးမြှုပ်နှံမှု ဖြစ်ကြောင်းဝန်ခံချက် တင်ပြခြင်း။

မဟာမိတ်ဘရူဝါရီ ကုမ္ပဏီ လီမိတက် သည် ရန်ကုန်တိုင်း၊ မှော်ဘီမြို့နယ်၊ လိပ္ပတ် ကျေးရွာအုပ်စု ကွင်းအမှတ် (၅၆၀)၊ လန (၃၉) ခွင့်ပြုမိန့်ရရှိပြီးသော ဧရိယာ(၂၄.၈၆) ဧက အကျယ်အဝန်းရှိသော မြေနေရာတွင် ခေတ်မီနည်းပညာဖြင့် ဘီယာထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြထားပါသည်။

အဆိုပါလုပ်ငန်းအတွက် ရင်းနှီးငွေအားလုံးကို မဟာမိတ်ဘရူဝါရီ ကုမ္ပဏီ လီမိတက်တွင် ပါဝင်သော မြန်မာနိုင်ငံသားအစုရှင်များက ရာနှုန်းပြည့် (၁၀၀%) ထည့်ဝင်ရင်းနှီး၍ လုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်မည် ဖြစ်ပါကြောင်း နိုင်ငံခြားသားများ ပါဝင်မှုမရှိပါကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

လျှောက်ထားသူ

ဦးအောင်မိုးကျော်
ဒါရိုက်တာ
မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်

**Alliance Brewery Company Limited**

No. R-18, S-19, Sittaung Street, Pyinnyawaddy Avenue, Yankin Township, Yangon, Union of Myanmar.

Tel : 95-1-559833, 551616 Fax : 95-1-559876

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
နေပြည်တော်။

ရက်စွဲ။ ။ ၂၀၁၁ခုနှစ်၊ စက်တင်ဘာလ (၃၀) ရက်။

အကြောင်းအရာ။ ။ ဘီယာချက်လုပ်ရာတွင် အသုံးပြုမည့်လောင်စာ အခြေအနေအား တင်ပြခြင်း။

ကျွန်တော်များ၏ မဟာမိတ်ဘရူဝါရီ ကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်း၊ မှော်ဘီမြို့နယ်၊ လိပ်ပွတ်ကျေးရွာအုပ်စု ကွင်းအမှတ် (၅၆၀)၊ လန (၃၉) ခွင့်ပြုမိန့်ရရှိပြီးသော ဧရိယာ (၂၄.၈၆) ဧက အကျယ်အဝန်းရှိသော မြေနေရာတွင် ဘီယာထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြထားပါသည်။

ဘီယာချက်လုပ်ရာတွင် ဘွိုင်လာရေနွေးငွေ့ကို အသုံးပြုမည်ဖြစ်ပြီး လောင်စာအနေဖြင့် ကျောက်မီးသွေးလောင်စာ၊ စပါးခွံလောင်စာ နှင့် ဒီဇယ်လောင်စာတို့ကို ရရှိမည့် အနေအထားပေါ်မူတည်၍ အလျှင်းသင့်သလို အသုံးပြုသွားမည်ဖြစ်ပါသည်။

စက်ရုံအဆောက်အဦး၏ အလင်းရောင် နှင့် Cooling System အတွက်မြန်မာ့လျှပ်စစ်ဓါတ်အား လုပ်ငန်းမှ လျှပ်စစ်မီးကို ရယူသုံးစွဲမည်ဖြစ်ပြီး လိုအပ်ပါက ကိုယ်ပိုင်မီးစက်ကို သုံးစွဲမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးအောင်မိုးကျော်
ဒါရိုက်တာ
မဟာမိတ်ဘရူဝါရီ ကုမ္ပဏီ လီမိတက်

| စဉ် | အကြောင်းအရာ | ပါ (✔) မပါ (x) | အလံ | မှတ်ချက် |
|---|---|---|---|---|
| | တွင် ကနဦး နှစ် (၄၀) နှင့် (၅)နှစ် သုံးကြိမ် သက်တမ်းတိုးခွင့်ရှိပါသည်။ BOT ရေအားလျှပ်စစ်လုပ်ငန်းတွင် ကနဦး နှစ် (၆၀) နှင့် (၅)နှစ် သုံးကြိမ် သက်တမ်းတိုးခွင့်ရှိပါသည်။ | | | |
| ၇။ | **<u>လုပ်ငန်းဆောင်ရွက်မည့်ငွေနှင့်စပ်လျဥ်း၍ စိစစ်ခြင်း</u>** | ✓ | | |
| | - အဆိုပြုကုမ္ပဏီ၏ ခွင့်ပြုမတည်ငွေရင်း ပမာဏ (Authorized Capital) ကို စိစစ်ရန်အတွက် ကုမ္ပဏီ၏ သင်းဖွဲ့ မှတ်တမ်း / စည်းမျဉ်း တင်ပြရန်) | | | |
| | - ရင်းနှီးမြှုပ်နှံမည့် ပြည်တွင်းသုံးငွေအတွက် ဘဏ် အထောက်အထား တင်ပြရန်၊ (ယင်းငွေသည် ရင်းနှီးမြှုပ်နှံမှု ပမာဏ (ဝယ်ယူပြီး တန်ဘိုးမှအပ) ၏ အနည်းဆုံး (     )ရာခိုင်နှုန်း တင်ပြရန်) | X | | |
| | - ရင်းနှီးမြှုပ်နှံမှုတွင် နိုင်ငံခြားငွေ ပါဝင်ပါက ၎င်းအတွက် MFTB/ MICB ၏Bank Statement တင်ပြရန်၊ (ယင်းငွေသည် ရင်းနှီးမြှုပ်နှံမှု ပမာဏ (ဝယ်ယူပြီး တန်ဘိုးမှအပ) ၏ အနည်းဆုံး (     ) ရာခိုင်နှုန်း တင်ပြရန်) | X | | |
| | - ကုမ္ပဏီပိုင်ငွေ/ BOD ပိုင်ငွေဖြင့် မလုံလောက်ပါက မိသားစု ကုမ္ပဏီပိုင်ငွေ/ ညီနောင်ကုမ္ပဏီပိုင်ငွေ အထောက် အထား တင်ပြရန်၊(ယင်းငွေသည် ရင်းနှီးမြှုပ် နှံမှု ပမာဏ (ဝယ်ယူပြီး တန်ဘိုး မှအပ) ၏ သုံးစွဲရန် အနည်းဆုံး ရာခိုင်နှုန်း တင်ပြရန်) | | | n.c |
| | - မိသားစု ကုမ္ပဏီပိုင်ငွေ/ ညီနောင်ကုမ္ပဏီပိုင်ငွေများ၏ အထောက် အထား တင်ပြမည် ဆိုပါက အဆိုပါ ကုမ္ပဏီများ၏ BOD ဆုံးဖြတ် ချက်တင်ပြရန် | | | n.c |
| | - တင်ပြလာသည့် ငွေကြေးအထောက်အထားများသည် အဆိုပြု လုပ်ငန်းတစ်ခုတည်းအတွက် တင်ပြခြင်းဟုတ်/မဟုတ် စစ်ဆေးရန်၊ | | | |
| | - ရင်းနှီးမြှုပ်နှံမည့် ငွေပမာဏ (Investment Capital ) သည် ခွင့်ပြုမတည်ငွေရင်းပမာဏ (Authorized Capital) ထက်များ နေပါက ရင်းနှီးမြှုပ်နှံမှု တိုးမြှင့်ခြင်း(သို့မဟုတ်) ပြည်တွင်း/ပြည်ပ ချေးငွေ ရယူမည့်အစီအစဥ် တင်ပြရန်၊ | | | n.c |
| | - ပြည်ပချေးငွေရယူပါက လုပ်ငန်းဆိုင်ရာ ဝန်ကြီးဌာန၊ စီမံ/စီးပွား ဝန်ကြီးဌာန/ ရှေ့နေချုပ်ရုံးနှင့် ဘဏ္ဍာ/အခွန် ဝန်ကြီးဌာနတို့၏ ထောက်ခံချက် တင်ပြရန်၊ | | | n.c |

| စဉ် | အကြောင်းအရာ | ပါ (✔) မပါ (x) | အလံ | မှတ်ချက် |
|---|---|---|---|---|
| ၈။ | **အထွေထွေ** | | | |
| | - ရင်းနှီးမြှုပ်နှံသူ၏ နိုင်ငံသားစိစစ်ရေးကဒ်မိတ္တူ | ✔ | | |
| | - လုပ်ငန်းဆောင်ရွက်မည့်တည်နေရာပြမြေပုံ | ✔ | | |
| | - မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက် | ✔ | | |
| | - လုပ်ငန်းခွင်သာယာရေးနှင့်ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက် | ✔ | | |
| | - အအေးခန်း လုပ်ငန်းဖြစ်ပါက ရေဆိုးစွန့်ပစ်မှု အစီအစဉ် နှင့် Waste Water Treatment Plant တပ်ဆင်ထားမှု ဖော်ပြပေးပါရန်၊ | | | n.c |
| | - လုပ်ငန်းသဘာဝ ထူးခြားပါက လုပ်ငန်းသဘာဝ ရှင်းလင်းချက်၊ | ✔ | | |
| | - အဆောက်အဦ ဆောက်လုပ်ပြီးဖြစ်ပါက အဆောက်အဦ ဓါတ်ပုံမိတ္တူ | | | n.c |
| | - အဆောက်အဦ မဆောက်လုပ်ရသေးပါက အဆောက်အဦ ပုံစံ | X | | |
| | - ကုမ္ပဏီဖွဲ့စည်းပြီးပါက ကုမ္ပဏီမှတ်ပုံတင် လက်မှတ် / ပုံစံ (၆) (အစုရှယ်ယာ လွှဲပြောင်းမှု) / ပုံစံ (၂၆) (ဒါရိုက်တာစာရင်း) | ✔ | | Form 26 ထပ်ဖြည့်ရန် |
| | - ကုမ္ပဏီဖွဲ့စည်းခွင့် တင်ပြထားပါက တင်ပြထားသည့် လျှောက်လွှာ | | | n.c |
| | - ယခု ဆောင်ရွက်မည့် လုပ်ငန်းသည် ကုမ္ပဏီမှတ်ပုံတင် လက်မှတ်တွင် ပါရှိသည့် လုပ်ငန်းရည်ရွယ်ချက် တွင် ပါဝင်မှုရှိ/မရှိ | ✔ | | |

| | **စိစစ်သူ** | **လာရောက်တွေ့ဆုံသူ** |
|---|---|---|
| လက်မှတ် | [signature] | [signature] |
| အမည် | [illegible] | ဒေါ်ခင်နွယ်သန်း |
| ရာထူး | ဒုတိယညွှန်ကြားရေးမှူး | Manager |
| ဌာနခွဲ/ကုမ္ပဏီ | ရင်းနှီး - ၂ | IBTC |
| နေ့စွဲ | ၂၇.၉.၂၀၁၁ | ၂၇.၉.၂၀၁၁ |

မှတ်ချက် - n.c = Not Concern (မသက်ဆိုင်ပါ)

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

### ရင်းနှီးမြှုပ်နှံမှု သတင်းအချက်အလက် စုဆောင်းရှာဖွေမြှင့်တင်ရေးအဖွဲ့

စာအမှတ်၊ရကာ-၆(က)/မ-ထွေ/၂၀၁၁( ၁၀၂၀၃)

ရက်စွဲ၊၂၀၁၁ ခုနှစ်၊ စက်တင်ဘာလ ၃၀ ရက်

**ရင်းနှီးမြှုပ်နှံမှု သတင်းအချက်အလက် စုဆောင်းရှာဖွေမြှင့်တင်ရေးအဖွဲ့ သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်မှ ရန်ကုန်တိုင်းဒေသကြီး ၊ မှော်ဘီမြို့နယ် တွင် ဘီယာထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်း ကို ကြိုတင်ဖြန့်ဝေခြင်းကိစ္စ**

၁။ မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်မှ ရန်ကုန်တိုင်းဒေသကြီး ၊ မှော်ဘီမြို့နယ်၊ လိပ္ပတ် ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၅၆၀) ရှိ မြေ(၂၄.၈၆)ဧက တွင် ဘီယာထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် ကိစ္စ အား ကြိုတင် စိစစ်ပေးပါရန် တင်ပြလာခြင်း ဖြစ်ပါ သည်။

၂။ ယင်းအဆိုပြု တင်ပြချက်အပေါ် ကော်မရှင်ရုံးအဖွဲ့မှ Check List ဖြင့် စိစစ်ပြီး လိုအပ်ချက် များအား စိစစ်လျှက်ရှိပါသည်။ အဆိုပါ ကိစ္စအား (၇-၁၀-၂၀၁၁) နေ့တွင် ကျင်းပ ပြုလုပ်မည့် ရင်းနှီးမြှုပ်နှံမှု သတင်းအချက်အလက် စုဆောင်းရှာဖွေမြှင့်တင်ရေးအဖွဲ့ ၏ (၁၄/၂၀၁၁) သို့ တင်ပြ ရန် ရည်ရွယ်ထားပါသည်။

၃။ သို့ပါ၍ မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်မှ ရန်ကုန်တိုင်းဒေသကြီး ၊ မှော်ဘီမြို့နယ်၊ လိပ္ပတ် ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၅၆၀) တွင် ဘီယာထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ မြေ/အဆောက်အဦ တန်ဖိုး၊ အခွန် ကိစ္စရပ်များ၊ လုပ်ငန်းဆိုင်ရာ ကိစ္စရပ်များ အစရှိသည် တို့ကို ကြိုတင် စိစစ်သုံးသပ်ပေး နိုင်ပါရန် တင်ပြ အပ်ပါသည်။

အဖွဲ့ခေါင်းဆောင် (ကိုယ်စား)

(သီတာမြင့် ၊ အတွင်းရေးမှူး)

မိတ္တူ - ရုံးလက်ခံ

လျှို့ဝှက်

Alliance

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

**ရင်းနှီးမြှုပ်နှံမှု သတင်းအချက်အလက် စုဆောင်းရှာဖွေမြှင့်တင်ရေးအဖွဲ့**

စာအမှတ်၊ ရက-၆(က)/မ-ထွေ/၂၀၁၁(၁၀၄၃၉)

ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ အောက်တိုဘာလ ၆ ရက်

**ရင်းနှီးမြှုပ်နှံမှု သတင်းအချက်အလက် စုဆောင်းရှာဖွေမြှင့်တင်ရေးအဖွဲ့သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **မဟာမိတ်ဘီယာရူပါရီကုမ္ပဏီလီမိတက် (Alliance Brewery Co., Ltd.) မှ ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ် တွင် ဘီယာထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ မဟာမိတ်ဘီယာရူပါရီကုမ္ပဏီလီမိတက် (Alliance Brewery Co., Ltd.) မှ ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်၊ လိပ်ပွတ် ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၅၆၀)ရှိ မြေ (၂၄.၆၈) ဧက တွင် ဘီယာထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအား ရင်းနှီးမြှုပ်နှံမှု သတင်း အချက်အလက် စုဆောင်း ရှာဖွေမြှင့်တင်ရေး အဖွဲ့၏ (၁၃/၂၀၁၁) (၃၀-၉-၂၀၁၁) အစည်းအဝေး၌ ကြိုတင် ဖြန့်ဝေခြင်း ဖြင့် တင်ပြခဲ့ပါသည်။

၂။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ယေဘုယျစိစစ်တွေ့ရှိချက်အရ အောက်ပါ လိုအပ်ချက်များ ပြင်ဆင်ဖြည့်စွက်ရန် လိုအပ်ကြောင်းတွေ့ရှိရပါသည်-

(က) အဆိုပြုကုမ္ပဏီ သည် ကုမ္ပဏီ မှတ်ပုံတင်ကဒ် လျှောက်ထားဆဲ ဖြစ်၍ ကုမ္ပဏီ မှတ်ပုံတင်ကဒ် ရရှိပါက ပုံစံ(၂၆) တင်ပြပေးရန် လိုအပ်ပါသည်။

(ခ) လုံလောက်သောကျပ်ငွေနှင့် နိုင်ငံခြားငွေ အထောက်အထားတင်ပြပေးပါရန်။

(ဂ) အဆောက်အဦဆောက်လုပ်ပြီးပါက အဆောက်အဦပုံစံနှင့် မဆောက်လုပ်ရသေးပါက Lay Out Plan တင်ပြပေးပါရန်။

၃။ အဆိုပြုချက်နှင့် စပ်လျဉ်း၍ အဖွဲ့ဝင်များနှင့် ဌာနများမှ ကြိုတင်စိစစ်ချက်အရ လိုအပ်ချက်များ ၊ ပြင်ဆင်ဖြည့်စွက်ရန် ကိစ္စများ၊ လုပ်ထုံးလုပ်နည်းနှင့် မညီညွတ်သည့် ကိစ္စများကို ဆွေးနွေးနိုင်ပါရန် တင်ပြအပ်ပါသည်။

(signature) ၆/၁၀/၁၁

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)

(သီတာမြင့်၊ အတွင်းရေးမှူး)

မိတ္တူ- ရုံးလက်ခံ

လျှို့ဝှက်

Alliance- IICPT

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
**ရင်းနှီးမြှုပ်နှံမှု သတင်းအချက်အလက် စုဆောင်းရှာဖွေမြှင့်တင်ရေးအဖွဲ့**

ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ အောက်တိုဘာလ ၇ ရက်

အကြောင်းအရာ။ **မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) မှ ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်တွင် ဘီယာထုတ်လုပ် ရောင်းချ ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်း ကိစ္စ**

၁။ မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) မှ ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်၊ လိပ်ပွတ်ကျေးရွာအုပ်စု ၊ ကွင်းအမှတ်(၅၆၀)ရှိ မြေ(၂၄.၆၈)ဧက တွင် ဘီယာထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်းအား ရင်းနှီးမြှုပ်နှံမှု သတင်းအချက်အလက် စုဆောင်းရှာဖွေမြှင့်တင်ရေး အဖွဲ့၏ (၁၄/၂၀၁၁)(၇-၁၀-၂၀၁၁)အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေးမှ အောက်ပါလိုအပ်ချက်များအား ပြန်လည်စိစစ်ပေးပါရန် ဆုံးဖြတ်ခဲ့ပါသည်-

(က)အဆိုပြုကုမ္ပဏီ၏ ပုံစံ(၂၆)တင်ပြပေးပါရန်၊

(ခ) လုံလောက်သောကျပ်ငွေနှင့် နိုင်ငံခြားငွေအထောက်အထားတင်ပြပေးပါရန်၊

(ဂ) အဆောက်အဦဆောက်လုပ်ပြီးပါက အဆောက်အဦပုံစံနှင့် မဆောက်ရသေးပါက Lay Out Plan တင်ပြပေးပါရန်၊

(ဃ) မနသပုံစံ ၈(က)၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုတွင် Cash တန်ဖိုးဖော်ပြပေးပါရန်၊

(င) Investment Structure တွင် ပရိဘောဂတန်ဖိုးထည့်ပေးပါရန်၊

(စ) နောက်ဆက်တွဲ(၁၅) ဝန်ထမ်းလစာ တွက်ချက်မှု တွင် တစ်နှစ် အတွက် လစာ တွက်ချက်မှု ဖော်ပြပေးပါရန်၊

(ဆ) နောက်ဆက်တွဲ(၁၇)အရှုံးအမြတ်ဇယားတွင် အောက်ပါတို့ကို ပြင်ဆင်ပေးရန် လိုအပ်ပါသည်-

- အရှုံးအမြတ်ဇယားကို စာရွက်တစ်ရွက်တည်းဖြင့် ချုံ့၍ တွက်ချက် ပေးပါရန်၊
- ဇယားအောက်တွင် ကုန်သွယ်လုပ်ငန်းခွန်၊ ဝင်ငွေခွန် ရာခိုင်နှုန်းများ ဖော်ပြပေးပါရန်၊
- ကုန်ကြမ်းနှင့် တန်ဖိုးလျော့ကို အသေးစိတ်မဖော်ပြဘဲ တစ်လိုင်းတည်းဖော်ပြပါရန်၊

- ကုန်သွယ်လုပ်ငန်းခွန်ကို (၅၀%)ဖြင့် တွက်ချက်ပေးပါရန်၊

(၁၉၉၀ ခုနှစ် ၊ ကုန်သွယ်လုပ်ငန်းခွန်ဥပဒေကို ပြင်ဆင်သည့်ဥပဒေပုဒ်မ ၁၀ အရ အစားထိုးပြင်ဆင်သည်)

(ဇ) IRR နှင့် Pay Back တွက်ချက်မှုကို ဖော်ပြပေးပါရန်၊

(ဈ) အဆိုပြုလွှာတွင် Official Rate (1 US$ = 6 Kyat)ဖြင့် တွက်ချက်ဖော်ပြပေးပါရန်၊

(ည) Market Price ဖြင့် တွက်ချက်မှုအား Investment Structure ၊ အရှုံးအမြတ်ဇယား၊ IRR နှင့် Pay Back တို့တွင် တွက်ချက်ဖော်ပြပေးပါရန်၊

(ဋ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးအစီအစဉ် တင်ပြပေးပါရန်၊

(ဌ) နိုင်ငံခြားမှ သွင်းကုန်အစားထိုးမည့်အစီအစဉ် တင်ပြပေးပါရန်၊

၃။ အထက်ပါ အချက်များအား ပြန်လည်စိစစ်ပြီး တင်ပြပေးပါရန် အကြောင်းကြား အပ်ပါသည်။

၄။ တွက်ချက်မှုများမှန်ကန်ပြီး သဘောထားများစုံလင်ပါက ကော်မရှင်အစည်းအဝေးသို့ တင်ပြပါမည်။

လာရောက်တွေ့ဆုံသူ - [signature] ဒေါ်ခင်နွယ်သန့်

အမည် - Alliance Co.

ရာထူး -

ကုမ္ပဏီအမည် - Alliance Co

ထုတ်ပေးသူ - [signature]

အမည် -

ရာထူး - DSO

ဌာန - ၇၉:-၂

(စ) တည်နေရာ လိပ်စာတွင် မြေကွက်အမှတ်များ အပြည့်အစုံဖော်ပြပေးပါရန် နှင့် ဂရံပါ လိပ်စာအတိုင်း ဖော်ပြပေးပါရန်၊ မနသပုံစံ ၉(ဇ)တွင်ဖော်ပြထားသော အဆောက်အဦစာရင်းနှင့် Lay Out Plan ရှိ အဆောက်အဦစာရင်း တူညီအောင်ဖော်ပြပေးပါရန်

၇။ **မဟာမိတ်ဘရူဝါရီ ကုမ္ပဏီ လီမိတက် (Alliance Brewery Co., Ltd.) မှ ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်တွင် ဘီယာထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်း ကိစ္စ**

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ညွှန်ကြားရေးမှူး ဒေါ်သီတာမြင့်မှ မဟာမိတ်ဘရူဝါရီ ကုမ္ပဏီ လီမိတက် မှ ရန်ကုန်တိုင်း ဒေသကြီး၊ မှော်ဘီမြို့နယ်တွင် ဘီယာ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအဆိုပြုချက် တင်ပြလာခြင်းကို ရှင်းလင်း တင်ပြပါသည်။

အဆိုပါကိစ္စနှင့် စပ်လျဉ်း၍ မဟာမိတ်ဘရူဝါရီ ကုမ္ပဏီ လီမိတက် မှ ကုမ္ပဏီ၏ လုပ်ငန်းဆောင်ရွက်မှုကို အသေးစိတ်ရှင်းလင်းတင်ပြပါသည်။

အမှတ်(၁)စက်မှုဝန်ကြီးဌာန ၊ မြန်မာ့စားသောက်ကုန်လုပ်ငန်းမှ ပြည်ပမှဝယ်ယူမည့် ကုန်ကြမ်းများအစား ပြည်တွင်းတွင် ရရှိနိုင်ပါက နိုင်ငံခြားမှ သွင်းကုန်အစားထိုးနိုင်မည် ဖြစ်ကြောင်းနှင့် သွင်းကုန်အစားထိုးစိုက်ပျိုးမည့် အစီအစဉ် တင်ပြပေးပါရန် ဆွေးနွေးပြောကြားပါသည်။

နိုင်ငံခြား စီးပွား ဆက်သွယ်ရေး ဦးစီးဌာန ၊ ညွှန်ကြားရေးမှူး ဒေါက်တာ ဒေါ်ဝါဝါမောင် မှ လည်း အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ အလုပ်သမားများအတွက် လူမှုဖူလုံရေးဆောင်ရွက်ထားရှိမှုနှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးအစီအစဉ်ဖော်ပြ သင့်ပါကြောင်း ဆွေးနွေးပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ညွှန်ကြားရေးမှူး ဒေါ်သီတာမြင့်မှ အဆိုပြုကုမ္ပဏီ၏ ပုံစံ ၂၆ နှင့် အဆောက်အဦအတွက် Lay Out Plan တင်ပြပေးရန် လိုပါကြောင်း ဆွေးနွေးပါသည်။

အစည်းအဝေးမှ အောက်ပါလိုအပ်ချက်များအား ပြန်လည် စိစစ်ပေးပါရန် ဆုံးဖြတ်ပါသည်-

(က) ကုမ္ပဏီ၏ ပုံစံ ၂၆ တင်ပြပေးပါရန်၊

(ခ) လုပ်ငန်းအတွက် လုံလောက်သော နိုင်ငံခြားငွေနှင့်ကျပ်ငွေအထောက်အထား တင်ပြပေးပါရန်၊

(ဂ) အဆောက်အဦအတွက် Lay Out Plan တင်ပြပေးရန်၊

(ဃ) သွင်းကုန်အစားထိုးစိုက်ပျိုးမည့် အစီအစဉ် တင်ပြပေးပါရန်၊

(င) အလုပ်သမားများအတွက်လူမှုဖူလုံရေး ဆောင်ရွက်ထားရှိမှု နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအစဉ်ဖော်ပြပေးပါရန်၊

(စ) Input Data များမှန်ကန်ပြီး၊ သဘောထားမှတ်ချက်များ ပြည့်စုံပါက ကော်မရှင် အစည်းအဝေးသို့ တင်ပြရန်၊

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ဖက်(စ)၉၅-၆၇-၄၀၆၁၆၁ တယ်လီဖုန်း-၀၆၇-၄၀၆၀၇၅၊ ၄၀၆၁၆၁

စာအမှတ်၊ ရက-၆(က) / မ- ၁၁၈၆/၂၀၁၁( ၁၁၀၇၄ )

ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ အောက်တိုဘာ လ ၇ ရက်

သို့

ဝန်ကြီးချုပ်၊
ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်း ကိစ္စ။**

ရည်ညွှန်းချက် ။ (၁) နိုင်ငံတော် သမ္မတရုံး၏ (၂၀-၄-၂၀၁၁) ရက်စွဲပါ အမိန့်ကြော်ငြာစာ အမှတ်၊ ၃၃/၂၀၁၁။

(၂) မဟာမိတ် ဘရူဝါရီကုမ္ပဏီ လီမိတက် ၏ (၃၀-၉-၂၀၁၁) ရက်စွဲ ပါစာ။

၁။ မဟာမိတ် ဘရူဝါရီကုမ္ပဏီ လီမိတက် မှ ရန်ကုန်တိုင်း ဒေသကြီး၊ မှော်ဘီ မြို့နယ်၊ လိပ်ပွတ်ကျေးရွာအုပ်စု ၊ကွင်းအမှတ် (၅၆၀) ရှိ လန-၃၉ မြေ(၂၄.၈၆)ဧက တွင် ဘီယာချက်စက်ရုံ တည်ဆောက်၍ ဘီယာထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့် ပြုပါရန် ရည်ညွှန်းပါ စာဖြင့် အဆိုပြုချက် တင်ပြခြင်း ကို လက်ခံရရှိခဲ့ ပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံး လုပ်နည်းများ အခန်း (၃) ၊ အပိုဒ် (၁၁) ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာ အဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန် လိုအပ်ပါသည်

၃။ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်ခွင့်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တိုင်းဒေသကြီးနှင့် ပြည်နယ်အစိုးရက ထောက်ခံချက်ပေးရာတွင် ဝန်ကြီးချုပ်ကိုယ်တိုင် စိစစ်ပြီး ထောက်ခံပေးပါရန် နိုင်ငံတော်သမ္မတရုံး၏ ရည်ညွှန်းချက် (၁)ပါ စာအပိုဒ် ၃(စ)တွင် ဖော်ပြထားပါသည်။

၄။ သို့ပါ၍ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ အချက်များ အပေါ် နိုင်ငံတော်သမ္မတကြီး၏ လမ်းညွှန်ချက်နှင့်အညီ သဘောထားမှတ်ချက်အား တစ်ပတ်အတွင်း ပြန်ကြားပေးပါရန် အဆိုပြုချက်(တစ်)စောင် ပူးတွဲလျက် ညှိနှိုင်း မေတ္တာရပ်ခံအပ်ပါသည်-

(က) ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူဖြစ်/မဖြစ်၊

(ခ) အဆိုပြု လုပ်ငန်းကို ဖော်ပြပါ မြေနေရာတွင် ဆောင်ရွက်ရန် "သင့်- မသင့်" နှင့် အဆိုပါ မြေနေရာတွင် လုပ်ငန်း ဆောင်ရွက်နေခြင်း "ရှိ- မရှိ"

(ဂ) သဘာဝပတ်ဝန်းကျင် ထိခိုက်မှုရှိ/မရှိ

(ဃ) တိုင်းဒေသကြီးအစိုးရအဖွဲ့၏ အကြံပြုချက်၊

ဥက္ကဋ္ဌ (ကိုယ်စား)
(သူရဦးသောင်းလွင်၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူ -

- မဟာမိတ် ဘရူဝါရီကုမ္ပဏီ လီမိတက် ထံ သိရှိနိုင်ပါရန် နှင့် သဘောထား ရရှိရေးအတွက် သက်ဆိုင်ရာ ဌာနများနှင့် ဆက်သွယ် ညှိနှိုင်း ဆောင်ရွက်ပါရန်အကြောင်းကြားပါသည်။
- ရုံးလက်ခံ / မျှောစာတွဲ။

နောက်ဆက်တွဲ(ခ)

1-625
1619

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**အမှတ်(၁)စက်မှုဝန်ကြီးဌာန**

**ဝန်ကြီးရုံး**

စာအမှတ်၊ ၂၉ / ၁စ( ၁ ) / ၂၀၁၁ ( ၈၇၁၄ )
ရက်စွဲ၊ ၂၀၁၁ ခုနှစ် စက်တင်ဘာလ ၁၅ ရက်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂-၉-၂၀၁၁)ရက်စွဲပါ ၊ စာအမှတ်၊ ရက-၆(က)/မ-ထွေ/၂၀၁၁(၈၇၅၁-ဃ)

၁။ International Beverages Trading Co., Ltd မှ မော်ဘီမြို့နယ်၊ လိပ်ပုတ်ကျေးရွာတွင် ဘီယာထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် အမှတ်(၁)စက်မှုဝန်ကြီးဌာန၏ မူဝါဒသဘောထားမှတ်ချက်ပြန်ကြားပေးပါရန် အထက်ရည်ညွှန်းစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ဘီယာထုတ်လုပ်ခြင်းလုပ်ငန်းသည် နိုင်ငံတော်မှကန့်သတ်ထားသော အဓိကစက်မှုလုပ်ငန်း(၁၅)မျိုးတွင် အပါအဝင်ဖြစ်ပြီး အဓိကစက်မှုလုပ်ငန်းများ စစ်ဆေးရာတွင် အခက်အခဲမရှိစေရေးကိစ္စနှင့်ပတ်သက်၍ နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီရုံး၏ (၂၃-၄-၁၉၉၉)နေ့တွင် ထုတ်ပြန်သော စာအမှတ်၊ ၄၀၅/၃-၂/နယက အရ လုပ်ငန်းရှင်များသည် လုပ်ငန်းမစတင်မီ စစ်ဆေးမှုခံယူနိုင်ရန်အတွက် အချက်အလက်များပြည့်စုံသည့် အဆိုပြုလွှာဖြင့် အမှတ်(၁)စက်မှုဝန်ကြီးဌာနအောက်ရှိ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာနသို့ တင်ပြလျှောက်ထားရန်လိုအပ်ပါသည်။

၃။ လက်ရှိအချိန်၌ ပြည်တွင်းတွင် ဘီယာစက်ရုံ(၃)ရုံ တည်ရှိပြီး ကာကွယ်ရေးဝန်ကြီးဌာန၊ မြန်မာစီးပွားရေးကော်ပိုရေးရှင်းတွင်(၁)ရုံနှင့် နိုင်ငံတော်ငွေထည့်ဝင်ပါရှိသော ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်တွင်(၂)ရုံဖြစ်ပါသည်။ ပုဂ္ဂလိကလုပ်ငန်းရှင်များသို့ယနေ့အထိ တည်ဆောက်ခွင့်ပြုထားခြင်းမရှိပါ။

၄။ ၎င်းဘီယာစက်ရုံ(၃)ရုံသည် နိုင်ငံခြားသွင်းကုန်အစားထိုးရန်နှင့် နိုင်ငံခြားငွေ ချွေတာနိုင်ရန် ပြည်တွင်း၌ ထုတ်လုပ်ခြင်းဖြစ်သော်လည်း အဓိကကုန်ကြမ်းဖြစ်သော malt ၊ hop နှင့် yeast တို့ကို နိုင်ငံခြားမှ တင်သွင်းထုတ်လုပ်လျက်ရှိပါသည်။

၅။ သို့ဖြစ်ပါ၍ International Beverages Trading Co., Ltd အနေဖြင့် ဘီယာထုတ်လုပ်ရာတွင် အဓိကကုန်ကြမ်းဖြစ်သော malt ၊ hop နှင့် yeast တို့ကို ပြည်ပမှ ဝယ်ယူတင်သွင်းမှုအပြင် ရေရှည်၌ ပြည်တွင်းတွင် ထုတ်လုပ်နိုင်ရေးကိုပါ စီမံဆောင်ရွက်သင့်ပါကြောင်းနှင့် လုပ်ငန်းအဆိုပြုလွှာပြုစု၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသင့်ပါကြောင်း သဘောထားမှတ်ချက်အား ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး ( )
သောင်းမြင့်၊ ရုံးအဖွဲ့မှူး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

D:\2011(2)Sept(2)11W.doc/161

မိတ္တူကို-

ညွှန်ကြားရေးမှူးချုပ်
စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း

၂။ အထက်ဖော်ပြပါအချက်များကြောင့် မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း သစ်ဆောင်ရွက်မှုအား ခွင့်ပြုနိုင်ပါရန် ထောက်ခံတင်ပြအပ်ပါသည်။

၃၁/၁၀

( မြင့်ဆွေ )
ဝန်ကြီးချုပ်

မိတ္တူကို

တိုင်းဒေသကြီးဝန်ကြီး၊ စီမံကိန်းနှင့်စီးပွားရေးဝန်ကြီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
လက်ခံစာတွဲ
မျှောစာတွဲ

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ နိုဝင်ဘာ လ ၁၅ ရက်

အကြောင်းအရာ။ **မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) မှ ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်တွင် ဘီယာထုတ်လုပ်ရောင်းချ ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းကိစ္စ**

၁။ မြန်မာကုမ္ပဏီဖြစ်သော မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.)သည် ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်၊ လိပ်ပွတ် ကျေးရွာအုပ်စု ၊ ကွင်းအမှတ် (၅၆၀-စီ) ၊ ဦးပိုင်အမှတ် ၇၂/၁၊ ၇၇ ၊ ၇၇/၁၊ ၇၈ ၊ ၃+၇၄/၂ ရှိ လန ၃၉ မြေ(၂၄.၈၆)ဧက တွင် ဘီယာထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အား (၉-၁၁-၂၀၁၁) နေ့ တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ (၂၃/၂၀၁၁) အစည်းအဝေး၌ တင်ပြခဲ့ရာ သဘောတူ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ နှင့် ယင်းဥပဒေ ဆိုင်ရာ လုပ်ထုံး လုပ်နည်းများ အခန်း(၄) ၊ အပိုဒ် ၁၂ တို့နှင့် အညီ မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်(Alliance Brewery Co.,Ltd.) အား ဘီယာထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ရန် ထုတ်ပေးမည့် **ခွင့်ပြုမိန့် နှင့် အမိန့်ကြော်ငြာစာ** တွင် **ဥက္ကဋ္ဌ** မှ လက်မှတ်ရေးထိုး ပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

(သီတာမြင့်)
ညွှန်ကြားရေးမှူး

**ဒုတိယညွှန်ကြားရေးမှူးချုပ်**

ပြည်ပခရီး

**ညွှန်ကြားရေးမှူးချုပ်**

ပြည်တွင်းခရီး

ဥက္ကဋ္ဌ

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

အကြောင်းအရာ။ **မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) မှ ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်တွင် ဘီယာထုတ်လုပ် ရောင်းချ ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်း ကိစ္စ**

၁။ မြန်မာကုမ္ပဏီဖြစ်သော မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက် မှ ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်၊ လှိုင်ပုတ်ကျေးရွာ တွင် ဘီယာထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းအား (၉.၁၁.၂၀၁၁)ရက်တွင် ကျင်းပသော ကော်မရှင်၏ (၂၃/၂၀၁၁) အစည်းအဝေးမှ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ လုပ်ငန်းရှင်သို့ ထုတ်ပေးမည့် ခွင့်ပြုမိန့် (အကြမ်း) နှင့် အမိန့်စာ (စာကြမ်း) တို့အား ပြုစုတင်ပြအပ်ပါသည်။

( [illegible] )

ညွှန်ကြားရေးမှူး။

ပုံစံ (မနသ - ၂)

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ၈၂ /၂၀၁၁ ။ ၂၀၁၁ ခုနှစ်၊ နိုဝင်ဘာ လ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦးအောင်မိုးကျော်

(ခ) အဘ အမည် ဦးလှမြင့်

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/မရက(နိုင်)၁၀၆၁၃၉၇

(ဃ) နေရပ်လိပ်စာ အမှတ် (၁၈-ဘီ)၊ အင်းယားလမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း အလိုင်ယန်စ်ဘရူဝါရီကုမ္ပဏီလီမိတက် (Alliance Brewery Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ဘီယာထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ကွင်းအမှတ် (၅၆၀-စီ)၊ ဦးပိုင်အမှတ် ၇၂/၁၊ ၇၇/၁၊ ၇၈၊ ၇၇၊ ၃+၇၄/၂၊ လှိုင်ပွင့်ကျေးရွာအုပ်စု၊ မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ၁၅၈၈.၈၈ သန်း (အမေရိကန်ဒေါ်လာ (၁.၈၄) သန်း အပါအဝင် စုစုပေါင်းကျပ်သန်း တစ်ထောင့်ငါးရာ ရှစ်ဆယ့်ငါးသန်း၊ ရှစ်သိန်း၊ ရှစ်သောင်း)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ /၂၀၁၁ (မနသ)
နေပြည်တော်၊ ၁၃၇၃ ခုနှစ်၊ တန်ဆောင်မုန်းလပြည့်ကျော် ရက်
(၂၀၁၁ ခုနှစ် ၊ နိုဝင်ဘာလ ရက်)

၁။ မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) သည် ကုမ္ပဏီ၏ ဒါရိုက်တာအဖွဲ့ဝင်များဖြစ်သော ဦးအောင်မိုးကျော်၊ ဦးလွင်အောင်အေး၊ ဦးတင့်ဦး၊ ဦးဇော်ထိုက် နှင့် ဦးမိုးချစ်သန်းတို့၏အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော ရန်ကုန်တိုင်း ဒေသကြီး၊ မှော်ဘီမြို့နယ်၊ လိပ္ပုတ် ကျေးရွာအုပ်စု ၊ ကွင်းအမှတ်(၅၆၀) ၊ ဦးပိုင်အမှတ် ၇၂/၁၊ ၇၇/၁၊ ၇၈ ၊ ၇၇ ၊ ၃+၇၄/၂ ရှိ မြေ(၂၄.၈၆)ဧက တွင် ဘီယာထုတ်လုပ် ရောင်းချခြင်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြ ချက် အား (၉-၁၁-၂၀၁၁) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၃/၂၀၁၁) အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သည် မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်း ထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) အား ဘီယာထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ - /၂၀၁၁ ကို ထုတ်ပေးလိုက်သည်။

၂။ မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ တွင် မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့်အညီ အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာ ခွင့်များကို ခံစား ခွင့်ပြုနိုင် ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့်ခံစားနိုင်ရန် အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလ အတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏ ကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤ ကော်မရှင် သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့် အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြ လျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရံပုံငွေ ထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေ အပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးမတည် ပစ္စည်းများ အပေါ် အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(စ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦးရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွက် ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရန် ပြည်ပမှတင်သွင်းသည့် လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန် နှင့် အခြားပြည်တွင်းအခွန်အကောက်များကို ကင်းလွတ် ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ)နှင့်(ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ ~~လှမဆော~~ မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) သည် ဤ ခွင့်ပြုမိန့် အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြ ထားသည့် ထုတ်လုပ်မှု ရည်မှန်းချက်များ ကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၅။ မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) သည် ဤ အဆိုပြုလုပ်ငန်း၏စာရင်းများကိုသီးခြားပြုစုထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရ မှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၇။ မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) သည် ပြည်တွင်း/ပြည်ပ ဈေးကွက်ပိုင်းဆိုင်ရာ တို့နှင့်စပ်လျဉ်း၍ အဆိုပြုချက်တွင် တင်ပြထား သည့် အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

၈။ မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) သည် နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ဆိုင်ရာ လုပ်ထုံး လုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့် အညီ ဤကော်မရှင်သို့ သီးခြားတင်ပြလျှောက်ထားရမည်။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ အလုပ်သမားများ သက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၉။ မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) သည် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေ ထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံ ကတိပြုထားသည့် အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်။ ယင်းသို့ဆောင်ရွက်ထားမှု အခြေ အနေကို ဤကော်မရှင် သို့ မပျက်မကွက် အစီရင်ခံ ရမည်။

၁၀။ မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) သည် ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေအရ ပြည်နယ်/တိုင်း စက်မှု ကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက် ရမည်။

၁၁။ မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) သည် ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး)လ အတွင်း ဤ ကော်မရှင် သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လတစ်ကြိမ် (ဧပြီ/အောက်တိုဘာလများ) မပျက်မကွက် ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင် သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)ပြောင်းလဲမှု ရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၃။ မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီး ဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေး တွေ့ရှိပါက ဤခွင့်ပြုမိန့် ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်း ခံရ မည်။

၁၄။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက် ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာ က စစ်ဆေး တွေ့ရှိလျှင် စက်ရုံ ပိတ်သိမ်းနိုင် ရေးအတွက်သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စာရင်း၌ ထည့်သွင်းခြင်း ခံရမည်။

၁၅။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(စိုးသိန်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရက-၆(က) /မ-၁၁၈၆/၂၀၁၁( )

ရက် စွဲ ၊ ၂၀၁၁ ခုနှစ်၊ နိုဝင်ဘာလ ရက်

ဖြန့်ဝေခြင်း-

၁။ သမ္မတဦးစီးရုံး။

၂။ ဒုတိယသမ္မတ(၁)ဦးစီးရုံး။

၃။ ဒုတိယသမ္မတ(၂)ဦးစီးရုံး။

၄။ ပြည်ထောင်စုအစိုးရအဖွဲ့ရုံး။

၅။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ။

၆။ ပြည်ထဲရေးဝန်ကြီးဌာန။

၇။ ဆောက်လုပ်ရေးဝန်ကြီးဌာန။

၈။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။

၉။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၁၀။ အလုပ်သမား ဝန်ကြီးဌာန။

၁၁။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၂။ အမှတ်(၁)စက်မှုဝန်ကြီးဌာန။

၁၃။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။

၁၄။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၁၅။ မြို့နယ်အစိုးရအဖွဲ့၊ ~~ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးမြို့။~~

၁၆။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၇။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၂၀။ ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှု ဦးစီးဌာန။

၂၁။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း။

၂၃။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၄။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၅။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၆။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၈။ အုပ်ချုပ်မှု ဒါရိုက်တာ ၊ မဟာမိတ်ဘီယာချက်လုပ်ရေးကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.)

ပုံစံ (မနသ - ၂)

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ၈၂၁ / ၂၀၁၁ ။ ၂၀၁၁ ခုနှစ်၊ နိုဝင်ဘာ လ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦးအောင်မိုးကျော်

(ခ) အဘ အမည် ဦးလှမြင့်

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/မရက(နိုင်) ၁၀၆၃၉၇

(ဃ) နေရပ်လိပ်စာ အမှတ်(၁၈-ဘီ)၊ အင်းယားလမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း မဟာမိတ်ဘီယာချက်လုပ်ငန်းကုမ္ပဏီလီမိတက်
(Alliance Brewery Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ဘီယာထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ကွင်းအမှတ်(၅၆၀-စီ)၊ ဦးပိုင်အမှတ်-၇၂/၁၊ ၇၇/၁၊ ၇၈၊ ၇၇၊ ၃+၇၄/၂၊ လှိုင်ပြတ်ကျေးရွာအုပ်စု၊ မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ၁၅၈၅.၈၈ (သန်း) (အမေရိကန်ဒေါ်လာ (၁.၈၄)သန်းအပါအဝင် စုစုပေါင်းကျပ်သန်း တစ်ထောင့် ငါးရာ ရှစ်ဆယ့် ငါးသန်း၊ ရှစ်သိန်း ၊ ရှစ်သောင်း)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

**ဆုံးဖြတ်ချက်**

၁၂။ အောက်ပါအတိုင်း ဆောင်ရွက်ရန် ဆုံးဖြတ်ကြပါသည် -

| စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|
| (က) | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၂/၂၀၁၁) ကြိမ်မြောက် အစည်းအဝေး မှတ်တမ်းအား အတည်ပြုရန်၊ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် |
| (ခ) | သုခစေတနာ ကုမ္ပဏီလီမိတက် (Thukha Saytanar Co., Ltd.) မှ နိုင်ငံတကာ အဆင့်မီ ဝိတိုရိယ ဆေးရုံကြီး တည်ထောင်၍ ဆေးဝါးကုသမှု လုပ်ငန်း အတွက် ဆေးဝန်ဆောင်မှုလုပ်ငန်းနှင့် ယင်းနှင့် ဆက်နွယ်သည့် ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုရန် မူအရခွင့်ပြုရန်နှင့် ရန်ကုန်မြို့တော်စည်ပင်သာယာရေး ကော်မတီနှင့် ချုပ်ဆိုထားသည့် လက်ရှိ BOT စာချုပ်ကို ရပ်ဆိုင်းကာ လိုအပ်သလို ထပ်မံပြင်ဆင်ချုပ်ဆို၍ BOD ကိုလည်း လိုအပ်သလို ပြင်ဆင်ဖွဲ့စည်းကာ ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် နှင့်အတူ ကော်မရှင်သို့ ပြန်လည်တင်ပြရန်၊ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်<br>ကျန်းမာရေး ဝန်ကြီးဌာန |
| (ဂ) | မဟာမိတ် ဘရူဝါရီ ကုမ္ပဏီလီမိတက် (Alliance Brewery Co., Ltd.) မှ ရန်ကုန်တိုင်း ဒေသကြီး၊ မှော်ဘီမြို့နယ်တွင် ဘီယာထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းအား သဘောတူခွင့်ပြုရန်၊ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်<br>အမှတ် (၁) စက်မှု ဝန်ကြီးဌာန |
| (ဃ) | လူငယ်အားမာန် ဟိုတယ်လုပ်ငန်း ကုမ္ပဏီလီမိတက် (Youth Force Hotel Co., Ltd.) မှ ယခင် နိုင်ငံခြားရေးရာဝန်ကြီးဌာန ရုံးနေရာအား B.O.T စနစ်ဖြင့် ငှားရမ်း၍ June XI Business centre & Services Apartment လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြခြင်းကို သဘောတူခွင့်ပြုရန်၊ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်<br>ဆောက်လုပ်ရေး ဝန်ကြီးဌာန |
| (င) | ချီဖွေ ရေအားလျှပ်စစ်စီမံကိန်း လုပ်ငန်းမှ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ရောင်းချ ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကို သဘောတူခွင့်ပြုရန်၊ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်<br>အမှတ် (၁) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန |

စာအမှတ်၊ ၄၀၅/၃-၂/နယက အရ လုပ်ငန်းရှင်များသည် လုပ်ငန်းမစတင်မီ စစ်ဆေးမှု ခံယူနိုင်ရန်အတွက် အချက်အလက်ပြည့်စုံသည့် အဆိုပြုလွှာ ဖြင့် အမှတ်(၁)စက်မှုဝန်ကြီး ဌာနအောက်ရှိ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနသို့ တင်ပြ လျှောက်ထားရန်လိုအပ်ပါကြောင်း၊ ယခုအခါ ပြည်တွင်းတွင် ဘီယာစက်ရုံ(၃)ရုံ ရှိရာ ကာကွယ်ရေး ဝန်ကြီးဌာန၊ မြန်မာ့ စီးပွားရေး ကော်ပိုရေးရှင်းတွင် (၁)ရုံ နှင့် နိုင်ငံတော်ငွေထည့်ဝင်ပါရှိသော ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေး ဦးပိုင်လီမိတက် တွင် (၂)ရုံ ရှိပြီး၊ ပုဂ္ဂလိကလုပ်ငန်းရှင်သို့ ခွင့်ပြုထားခြင်း မရှိပါကြောင်း၊ ၎င်း ဘီယာစက်ရုံ(၃)ရုံသည် သွင်းကုန်အစားထိုးရန်နှင့် နိုင်ငံခြားငွေ ခြွေတာနိုင်ရန် ပြည်တွင်း၌ ထုတ်လုပ်ခြင်း ဖြစ်သော်လည်း အဓိကကုန်ကြမ်းဖြစ်သော malt , hop နှင့် yeast တို့ကို နိုင်ငံခြားမှ တင်သွင်းရ ပါကြောင်း၊ သို့ဖြစ်ပါ၍ အဆိုပြု ကုမ္ပဏီအနေဖြင့် ဘီယာထုတ်လုပ်ရာတွင် အဓိက ကုန်ကြမ်းဖြစ်သော malt , hop နှင့် yeast တို့ကို ပြည်ပမှ တင်သွင်းမှု အပြင် ပြည်တွင်းတွင် ထုတ်လုပ်နိုင်ရေးကိုပါ စီမံဆောင်ရွက် သင့်ပါကြောင်း နှင့် အဆိုပြုလွှာပြုစု၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသင့် ပါကြောင်း ” သဘောထား ပြန်ကြားထားပါ သည်။(နောက်ဆက်တွဲ-ခ)

၄။ လုပ်ငန်း အဆိုပြုချက်ကို (<u>နောက်ဆက်တွဲ - ဂ</u>)ဖြင့် ဖော်ပြထားပါသည်။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ (၁.၈၄)သန်းအပါအဝင် ကျပ် (၁၅၈၅.၈၈) သန်း ဖြစ်ပါသည်။ လုပ်ငန်းအတွက် လိုအပ်သော စက် ပစ္စည်းများ အမေရိကန်ဒေါ်လာ (၁.၈၄)သန်း ဖိုးအား ပြည်ပ မှ ဝယ်ယူမည် ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမည့် အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

**<u>စုစုပေါင်းရင်းနှီးမြှုပ်နှံမှု</u>** **<u>ကျပ် ၁၅၈၅.၈၈ သန်း</u> (US$ ၁.၈၄ သန်း အပါအဝင်)**

| | | |
|---|---|---|
| (က) | စက်ပစ္စည်းကိရိယာများ | ၁၀.၀၃ (US$ ၁.၈၄ သန်း ) |
| (ခ) | အဆောက်အဦ | ၁၄၃၃.၇၆ |
| (ဂ) | မြေ | ၁၄၁.၀၉ |

၅။ လျှပ်စစ်ဓါတ်အားကို ရန်ကုန်မြို့တော်လျှပ်စစ်ဓါတ်အားပေးရေးအဖွဲ့မှ ခွင့်ပြုထားသော (၃၃/၁၁)ကေဗွီ၊ (၃)အမ်ဗွီအေ ခွဲရုံ မှ ရယူမည် ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၆။ အဆိုပြုလုပ်ငန်းမှဘီယာများထုတ်လုပ်မည်ဖြစ်ပြီး၊ ပုံမှန်နှစ်တွင်ထုတ်လုပ်နိုင်မှုနှင့် ဝင်ငွေများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအစား | ထုတ်လုပ်မှု | ဝင်ငွေ (ကျပ်သန်း) | ထုတ်လုပ်မည့် ကာလ |
|---|---|---|---|---|
| ၁။ | KEG (စည်) | ၂၉၂၆၅၈ | ၈၄၂၉ | ၂၀၁၄ မှ ၂၀၂၃ အထိ |
| ၂။ | Bottle(ပုလင်း) | ၇၂၇၃၁၆၂ | ၅၈၁၉ | ၂၀၁၄ မှ ၂၀၂၃ အထိ |
| ၃။ | Can(သံဗူး) | ၁၄၈၅၄၆၃၅ | ၅၂၂၉ | ၂၀၂၀ မှ ၂၀၂၃ အထိ |

၇။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

**အမေရိကန်တစ်ဒေါ်လာ= ၆ ကျပ်**

| | နိုင်ငံခြားငွေဖြင့် US$(သန်း) | ညီမျှသော ကျပ်(သန်း) | ကျပ်ငွေဖြင့် ကျပ်(သန်း) | စုစုပေါင်းကျပ် ကျပ်(သန်း) |
|---|---|---|---|---|
| ဝင်ငွေ | - | - | ၂၅၂၇၀.၁၆ | ၂၅၂၇၀.၁၆ |
| အသုံးစရိတ် | - | - | ၁၆၃၂၃.၉၅ | ၁၆၃၂၃.၉၅ |
| အသားတင် အမြတ် | - | - | ၈၉၄၇.၂၁ | ၈၉၄၇.၂၁ |

**အမေရိကန်တစ်ဒေါ်လာ= ၈၀၀ကျပ်**

| | နိုင်ငံခြားငွေဖြင့် US$(သန်း) | ညီမျှသော ကျပ်(သန်း) | ကျပ်ငွေဖြင့် ကျပ်(သန်း) | စုစုပေါင်းကျပ် ကျပ်(သန်း) |
|---|---|---|---|---|
| ဝင်ငွေ | - | - | ၂၅၂၇၀.၁၆ | ၂၅၂၇၀.၁၆ |
| အသုံးစရိတ် | - | - | ၁၉၇၃၀.၁၆ | ၁၉၇၃၀.၁၆ |
| အသားတင်အမြတ် | - | - | ၅၅၄၀.၀၀ | ၅၅၄၀.၀၀ |

၈။ နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ် လုပ်ငန်း ခွန်ကျပ် (၈၇၇၈.၄၀) သန်း နှင့်ဝင်ငွေခွန်ကျပ်(၃၈၃၄.၅၂)သန်း ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေ ကာလမှာ (၁)နှစ် နှင့် (၆)လ ဖြစ်ပြီး၊ အရင်းအနှီးပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း IRR မှာ (၂၈.၂)% ဖြစ်ပါသည်။

၉။ လုပ်ငန်းဆောင်ရွက်ရန်ပြည်တွင်းမှလုပ်သား (၁၆၃) ဦး ခန့်ထားမည် ဖြစ်ပြီး၊ နိုင်ငံခြားသား ပညာရှင်(၃၀)ဦးအား ခန့်ထားမည်ဖြစ်ကြောင်းတင်ပြထားပါသည်။ ဝန်ထမ်းသက်သာ ချောင်ချိရေး နှင့် လုပ်ငန်းခွင် သာယာရေး အတွက် စီစဉ်ပေး ထားပါကြောင်း ကုမ္ပဏီမှ တင်ပြထား ပါသည်။

၁၀။ ငွေကြေး အထောက်အထားအဖြစ် ကုမ္ပဏီ အမည်ဖြင့် ကမ္ဘောဇဘဏ် လီမိတက် ရှိ (၆-၁၀-၂၀၁၁) နေ့ရှိ ငွေလက်ကျန် ကျပ်(၁၅၀၀.၀၀) သန်း (သုံးစွဲမည့်ကျပ်ငွေ၏ ၁၀၅%) နှင့် နိုင်ငံခြားငွေ အထောက် အထား အဖြစ် ကုမ္ပဏီအမည်ဖြင့် (၂၀-၁၀-၂၀၁၁) နေ့ရှိ ငွေလက်ကျန် အမေရိကန် ဒေါ်လာ (၁.၈၄)သန်း (သုံးစွဲမည့်နိုင်ငံခြားငွေ၏ ၁၀၀ %) ရှိကြောင်း တင်ပြထားပါသည်။

၁၁။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများ သာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မီးဘေးအန္တရာယ်မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင်

ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်းဒေသကြီးရ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာနတွင်မှတ်ပုံတင်ထားရှိမည်ဖြစ်ကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များ ကို လိုက်နာ ဆောင်ရွက် သွားမည် ဖြစ်ကြောင်း ဝန်ခံ ကတိပြုထားပါသည်။ ထို့ပြင် သဘာဝ ပါတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဥ်များ၊ ရေဆိုးသန့်စင်စက်ရုံ တည်ဆောက်ရန် အစီအစဥ်များနှင့် သွင်းကုန်အစားထိုး စီမံကိန်းများကိုလည်း တင်ပြထားပါသည်။

၁၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကိုလည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကိုလည်းကောင်း ခံစားခွင့်ပြုရပါမည်။

၁၃။ သို့ဖြစ်ပါ၍ မဟာမိတ်ဘီယာချက်လုပ်ငန်းကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) မှ ရန်ကုန်တိုင်း ဒေသကြီး၊ မှော်ဘီမြို့နယ်တွင် ဘီယာထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်းအပေါ် လမ်းညွှန်မှု ခံယူအပ်ပါသည်။

အတွင်းရေးမှူး(ကိုယ်စား)
(အောင်နိုင်ဦး၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူ - ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ဖက်(စ)၉၅-၆၇-၄၀၆၁၆၁ တယ်လီဖုန်း-၀၆၇-၄၀၆၀၇၅၊ ၄၀၆၁၆၁

စာအမှတ်၊ ရက-၆(က) / မ- ၁၁၈၆/၂၀၁၁( ၁၁၀၇၄ )

ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ အောက်တိုဘာ လ ၇ ရက်

သို့

ဝန်ကြီးချုပ်၊
ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်း ကိစ္စ။**

ရည်ညွှန်းချက် ။ (၁) နိုင်ငံတော် သမ္မတရုံး၏ (၂၀-၄-၂၀၁၁) ရက်စွဲပါ အမိန့်ကြော်ငြာစာ အမှတ်၊ ၃၃/၂၀၁၁။

(၂) မဟာမိတ် ဘရူဝါရီကုမ္ပဏီ လီမိတက် ၏ (၃၀-၉-၂၀၁၁) ရက်စွဲ ပါစာ။

၁။ မဟာမိတ် ဘရူဝါရီကုမ္ပဏီ လီမိတက် မှ ရန်ကုန်တိုင်း ဒေသကြီး၊ မှော်ဘီ မြို့နယ်၊ လိပ်ပွတ်ကျေးရွာအုပ်စု ၊ကွင်းအမှတ် (၅၆၀) ရှိ လန-၃၉ မြေ(၂၄.၈၆)ဧက တွင် ဘီယာချက်စက်ရုံ တည်ဆောက်၍ ဘီယာထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့် ပြုပါရန် ရည်ညွှန်းပါ စာဖြင့် အဆိုပြုချက် တင်ပြခြင်း ကို လက်ခံရရှိခဲ့ ပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံး လုပ်နည်းများ အခန်း (၃) ၊ အပိုဒ် (၁၁) ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာ အဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန် လိုအပ်ပါသည်

၃။ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်ခွင့်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တိုင်းဒေသကြီးနှင့် ပြည်နယ်အစိုးရက ထောက်ခံချက်ပေးရာတွင် ဝန်ကြီးချုပ်ကိုယ်တိုင် စိစစ်ပြီး ထောက်ခံပေးပါရန် နိုင်ငံတော်သမ္မတရုံး၏ ရည်ညွှန်းချက် (၁)ပါ စာအပိုဒ် ၃(စ)တွင် ဖော်ပြထား ပါသည်။

၄။ သို့ပါ၍ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ အချက်များ အပေါ် နိုင်ငံတော်သမ္မတကြီး၏ လမ်းညွှန်ချက်နှင့်အညီ သဘောထားမှတ်ချက်အား တစ်ပတ်အတွင်း ပြန်ကြားပေးပါရန် အဆိုပြုချက်(တစ်)စောင် ပူးတွဲလျှက် ညှိနှိုင်း မေတ္တာရပ်ခံအပ်ပါသည်-

(က) ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူဖြစ်/မဖြစ်၊

(ခ) အဆိုပြု လုပ်ငန်းကို ဖော်ပြပါ မြေနေရာတွင် ဆောင်ရွက်ရန် “သင့်- မသင့်” နှင့် အဆိုပါ မြေနေရာတွင် လုပ်ငန်း ဆောင်ရွက်နေခြင်း “ရှိ- မရှိ”

(ဂ) သဘာဝပတ်ဝန်းကျင် ထိခိုက်မှုရှိ/မရှိ၊

(ဃ) တိုင်းဒေသကြီးအစိုးရအဖွဲ့၏ အကြံပြုချက်၊

ဥက္ကဋ္ဌ (ကိုယ်စား)
(သူရဦးသောင်းလွင်၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူ -

- မဟာမိတ် ဘရူဝါရီကုမ္ပဏီ လီမိတက် ထံ သိရှိနိုင်ပါရန် နှင့် သဘောထား ရရှိရေး အတွက် သက်ဆိုင်ရာ ဌာနများနှင့် ဆက်သွယ် ညှိနှိုင်း ဆောင်ရွက်ပါရန်အကြောင်းကြားပါသည်။
- ရုံးလက်ခံ / မျှောစာတွဲ။

M-625
1619

**နောက်ဆက်တွဲ(ခ)**

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## အမှတ်(၁)စက်မှုဝန်ကြီးဌာန
## ဝန်ကြီးရုံး

စာအမှတ်၊ ၂၉ / ၁၈( ၁ ) / ၂၀၁၁ ( ၈၇၁၄ )
ရက်စွဲ၊ ၂၀၁၁ ခုနှစ် စက်တင်ဘာလ ၁၅ ရက်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂-၉-၂၀၁၁)ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/မ-ထွေ/၂၀၁၁(၈၇၅၁-ဃ)

၁။ International Beverages Trading Co., Ltd မှ မှော်ဘီမြို့နယ်၊ လိပ်ပုတ်ကျေးရွာတွင် ဘီယာထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် အမှတ်(၁)စက်မှုဝန်ကြီးဌာန၏ မူဝါဒသဘောထားမှတ်ချက်ပြန်ကြားပေးပါရန် အထက်ရည်ညွှန်းစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ဘီယာထုတ်လုပ်ခြင်းလုပ်ငန်းသည် နိုင်ငံတော်မှကန့်သတ်ထားသော အဓိကစက်မှုလုပ်ငန်း(၁၅)မျိုးတွင် အပါအဝင်ဖြစ်ပြီး အဓိကစက်မှုလုပ်ငန်းများ စစ်ဆေးရာတွင် အခက်အခဲမရှိစေရေးကိစ္စနှင့်ပတ်သက်၍ နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီရုံး၏ (၂၃-၄-၁၉၉၉)နေ့တွင် ထုတ်ပြန်သော စာအမှတ်၊ ၄၀၅/၃-၂/နယက အရ လုပ်ငန်းရှင်များသည် လုပ်ငန်းမစတင်မီ စစ်ဆေးမှုခံယူနိုင်ရန်အတွက် အချက်အလက်များပြည့်စုံသည့် အဆိုပြုလွှာဖြင့် အမှတ်(၁) စက်မှုဝန်ကြီးဌာနအောက်ရှိ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာနသို့ တင်ပြလျှောက်ထားရန်လိုအပ်ပါသည်။

၃။ လက်ရှိအချိန်၌ ပြည်တွင်းတွင် ဘီယာစက်ရုံ(၃)ရုံ တည်ရှိပြီး ကာကွယ်ရေးဝန်ကြီးဌာန၊ မြန်မာစီးပွားရေးကော်ပိုရေးရှင်းတွင်(၁)ရုံနှင့် နိုင်ငံတော်ငွေထည့်ဝင်ပါရှိသော ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်တွင်(၂)ရုံဖြစ်ပါသည်။ ပုဂ္ဂလိကလုပ်ငန်းရှင်များသို့ယနေ့အထိ တည်ဆောက်ခွင့်ပြုထားခြင်းမရှိပါ။

၄။ ၎င်းဘီယာစက်ရုံ(၃)ရုံသည် နိုင်ငံခြားသွင်းကုန်အစားထိုးရန်နှင့် နိုင်ငံခြားငွေ ချွေတာနိုင်ရန် ပြည်တွင်း၌ ထုတ်လုပ်ခြင်းဖြစ်သော်လည်း အဓိကကုန်ကြမ်းဖြစ်သော malt ၊ hop နှင့် yeast တို့ကို နိုင်ငံခြားမှ တင်သွင်းထုတ်လုပ်လျက်ရှိပါသည်။

၅။ သို့ဖြစ်ပါ၍ International Beverages Trading Co., Ltd အနေဖြင့် ဘီယာထုတ်လုပ်ရာတွင် အဓိကကုန်ကြမ်းဖြစ်သော malt ၊ hop နှင့် yeast တို့ကို ပြည်ပမှ ဝယ်ယူတင်သွင်းမှုအပြင် ရေရှည်၌ ပြည်တွင်းတွင် ထုတ်လုပ်နိုင်ရေးကိုပါ စီမံဆောင်ရွက်သင့်ပါကြောင်းနှင့် လုပ်ငန်းအဆိုပြုလွှာပြုစု၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသင့်ပါကြောင်း သဘောထားမှတ်ချက်အား ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး ( )
သောင်းမြင့်၊ ရုံးအဖွဲ့မှူး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

D:\2011(2)Sept(2)11W.doc/161

မိတ္တူကို-

ညွှန်ကြားရေးမှူးချုပ်
စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း

လျှို့ဝှက်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၆(က)/မ-၁၁၈၆/၂၀၁၁(၁၂၅၆၃-၈)
ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ နိုဝင်ဘာ လ ၃ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ **မဟာမိတ်ဘီယာရူဝါရီကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) မှ ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်တွင် ဘီယာထုတ်လုပ် ရောင်းချ ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်း ကိစ္စ**

၁။ မဟာမိတ်ဘီယာရူဝါရီကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) သည် ကုမ္ပဏီ၏ ဒါရိုက်တာအဖွဲ့ဝင်များဖြစ်သော ဦးအောင်မိုးကျော်၊ ဦးလွင်အောင်အေး၊ ဦးတင့်ဦး၊ ဦးဇော်ထိုက် နှင့် ဦးမိုးချစ်သန်းတို့၏အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော ရန်ကုန်တိုင်း ဒေသကြီး၊ မှော်ဘီမြို့နယ်၊ လိပ်ပွတ် ကျေးရွာအုပ်စု ၊ ကွင်းအမှတ်(၅၆၀) ၊ ဦးပိုင်အမှတ် ၇၂/၁၊ ၇၇/၁၊ ၇၈ ၊ ၇၇ ၊ ၃+၇၄/၂ ရှိ လန ၃၉ မြေ(၂၄.၈၆)ဧက တွင် ဘီယာထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံ သားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးအောင်မိုးကျော် (အဘ - ဦးလှမြင့်)မှ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့် နှင့် စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ သို့ သဘောထား တောင်းခံခဲ့ရာ ဝန်ကြီးချုပ်ကိုယ်တိုင် လက်မှတ်ရေးထိုး၍ အောက်ပါအတိုင်း ပြန်ကြား လာပါသည်-(နောက်ဆက်တွဲ-က)

(က) ထွက်ရှိလာသော ဘီယာများအား ပြည်တွင်းတွင် ရောင်းချခြင်းဖြင့် ပြည်ပမှ ဘီယာ တင်သွင်းမှု လျော့နည်းစေပြီး နိုင်ငံခြားငွေစီးထွက်မှုကို လျော့နည်းစေခြင်း၊ လုပ်သား များအတွက် နည်းပညာ နှင့် အလုပ်အကိုင် ရရှိခြင်း တို့ကြောင့် ဒေသ စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူဖြစ်နိုင်ပါကြောင်း၊

(ခ) အဆိုပြုမြေနေရာတွင် လုပ်ငန်း ဆောင်ရွက်နေခြင်း မရှိသေးပါကြောင်းနှင့် လုပ်ငန်း ဆောင်ရွက်ရန် သင့်လျော်ပါကြောင်း၊

(ဂ) စက်ရုံမှစွန့်ပစ်ပစ္စည်းများအား ဘေးဥပါဒ်မပေးနိုင်သည့်ပမာဏအနည်းဆုံးအဆင့်ထိ လျော့ချဆောင်ရွက်မည်ဖြစ်ပါ၍ ပတ်ဝန်းကျင်ထိခိုက်မှုမရှိနိုင်ပါကြောင်းနှင့် လုပ်ငန်း ဆောင်ရွက်ခြင်းကိုထောက်ခံပါကြောင်း၊

၃။ အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်နှင့် စပ်လျဉ်း၍ အမှတ်(၁)စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါး နှင့် စားသောက်ကုန်လုပ်ငန်းသို့ မူဝါဒဆိုင်ရာသဘောထားတောင်းခံခဲ့ရာ " ဘီယာ ထုတ်လုပ်ခြင်း လုပ်ငန်းသည် နိုင်ငံတော်မှ ကန့်သတ်ထားသော အဓိကစက်မှုလုပ်ငန်း (၁၅)မျိုးတွင် ပါဝင်ပြီး နိုင်ငံတော် အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီရုံး၏ (၂၃-၄-၁၉၉၉) နေ့တွင် ထုတ်ပြန်သော

လျှို့ဝှက်

စာအမှတ်၊ ၄၀၅/၃-၂/နယက အရ လုပ်ငန်းရှင်များသည် လုပ်ငန်းမစတင်မီ စစ်ဆေးမှု ခံယူနိုင်ရန်အတွက် အချက်အလက်ပြည့်စုံသည့် အဆိုပြုလွှာ ဖြင့် အမှတ်(၁)စက်မှုဝန်ကြီး ဌာနအောက်ရှိ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနသို့ တင်ပြ လျှောက်ထားရန်လိုအပ်ပါကြောင်း၊ ယခုအခါ ပြည်တွင်းတွင် ဘီယာစက်ရုံ(၃)ရုံ ရှိရာ ကာကွယ်ရေး ဝန်ကြီးဌာန၊ မြန်မာ့ စီးပွားရေး ကော်ပိုရေးရှင်းတွင် (၁)ရုံ နှင့် နိုင်ငံတော်ငွေထည့်ဝင်ပါရှိသော ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေး ဦးပိုင်လီမိတက် တွင် (၂)ရုံ ရှိပြီး၊ ပုဂ္ဂလိကလုပ်ငန်းရှင်သို့ ခွင့်ပြုထားခြင်း မရှိပါကြောင်း၊ ၎င်း ဘီယာစက်ရုံ(၃)ရုံသည် သွင်းကုန်အစားထိုးရန်နှင့် နိုင်ငံခြားငွေ ခြိုးခြံချွေတာနိုင်ရန် ပြည်တွင်း၌ ထုတ်လုပ်ခြင်း ဖြစ်သော်လည်း အဓိကကုန်ကြမ်းဖြစ်သော malt , hop နှင့် yeast တို့ကို နိုင်ငံခြားမှ တင်သွင်းရ ပါကြောင်း၊ သို့ဖြစ်ပါ၍ အဆိုပြု ကုမ္ပဏီအနေဖြင့် ဘီယာထုတ်လုပ်ရာတွင် အဓိက ကုန်ကြမ်းဖြစ်သော malt , hop နှင့် yeast တို့ကို ပြည်ပမှ တင်သွင်းမှု အပြင် ပြည်တွင်းတွင် ထုတ်လုပ်နိုင်ရေးကိုပါ စီမံဆောင်ရွက် သင့်ပါကြောင်း နှင့် အဆိုပြုလွှာပြုစု၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသင့် ပါကြောင်း " သဘောထား ပြန်ကြားထားပါ သည်။(နောက်ဆက်တွဲ-ခ)

၄။ လုပ်ငန်း အဆိုပြုချက်ကို (နောက်ဆက်တွဲ - ဂ)ဖြင့် ဖော်ပြထားပါသည်။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ (၁.၈၄)သန်းအပါအဝင် ကျပ် (၁၅၈၅.၈၈) သန်း ဖြစ်ပါသည်။ လုပ်ငန်းအတွက် လိုအပ်သော စက် ပစ္စည်းများ အမေရိကန်ဒေါ်လာ (၁.၈၄)သန်း ဖိုးအား ပြည်ပ မှ ဝယ်ယူမည် ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမည့် အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

**စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ကျပ် ၁၅၈၅.၈၈ သန်း (US$ ၁.၈၄ သန်း အပါအဝင်)**

(က) စက်ပစ္စည်းကိရိယာများ ၁၁.၀၃ (US$ ၁.၈၄ သန်း )

(ခ) အဆောက်အဦ ၁၄၃၃.၇၆

(ဂ) မြေ ၁၄၁.၀၉

၅။ လျှပ်စစ်ဓါတ်အားကို ရန်ကုန်မြို့တော်လျှပ်စစ်ဓါတ်အားပေးရေးအဖွဲ့မှ ခွင့်ပြုထားသော (၃၃/၁၁)ကေဗွီ၊ (၃)အမ်ဗွီအေ ခွဲရုံ မှ ရယူမည် ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၆။ အဆိုပြုလုပ်ငန်းမှဘီယာများထုတ်လုပ်မည်ဖြစ်ပြီး၊ ပုံမှန်နှစ်တွင်ထုတ်လုပ်နိုင်မှုနှင့် ဝင်ငွေများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအစား | ထုတ်လုပ်မှု | ဝင်ငွေ (ကျပ်သန်း) | ထုတ်လုပ်မည့် ကာလ |
|---|---|---|---|---|
| ၁။ | KEG (စည်) | ၂၉၂၆၅၈ | ၈၄၂၉ | ၂၀၁၄ မှ ၂၀၂၃ အထိ |
| ၂။ | Bottle(ပုလင်း) | ၇၂၇၃၁၆၂ | ၅၈၁၉ | ၂၀၁၄ မှ ၂၀၂၃ အထိ |
| ၃။ | Can(သံဗူး) | ၁၄၈၅၄၆၃၅ | ၅၂၂၉ | ၂၀၂၁ မှ ၂၀၂၃ အထိ |

၇။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။ **အမေရိကန်တစ်ဒေါ်လာ= ၆ ကျပ်**

| | နိုင်ငံခြားငွေဖြင့် US$(သန်း) | ညီမျှသော ကျပ်(သန်း) | ကျပ်ငွေဖြင့် ကျပ်(သန်း) | စုစုပေါင်းကျပ် ကျပ်(သန်း) |
|---|---|---|---|---|
| ဝင်ငွေ | - | - | ၂၅၂၇၀.၁၆ | ၂၅၂၇၀.၁၆ |
| အသုံးစရိတ် | - | - | ၁၆၃၂၃.၉၅ | ၁၆၃၂၃.၉၅ |
| အသားတင်အမြတ် | - | - | ၈၉၄၇.၂၁ | ၈၉၄၇.၂၁ |

**အမေရိကန်တစ်ဒေါ်လာ= ၈၀၀ကျပ်**

| | နိုင်ငံခြားငွေဖြင့် US$(သန်း) | ညီမျှသော ကျပ်(သန်း) | ကျပ်ငွေဖြင့် ကျပ်(သန်း) | စုစုပေါင်းကျပ် ကျပ်(သန်း) |
|---|---|---|---|---|
| ဝင်ငွေ | - | - | ၂၅၂၇၀.၁၆ | ၂၅၂၇၀.၁၆ |
| အသုံးစရိတ် | - | - | ၁၉၇၁၀.၁၆ | ၁၉၇၁၀.၁၆ |
| အသားတင်အမြတ် | - | - | ၅၅၆၀.၀၀ | ၅၅၆၀.၀၀ |

၈။ နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ် လုပ်ငန်း ခွန်ကျပ် (၈၇၇၈.၄၀) သန်း နှင့်ဝင်ငွေခွန်ကျပ်(၃၈၃၄.၅၂)သန်း ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေ ကာလမှာ (၁)နှစ် နှင့် (၆)လ ဖြစ်ပြီး၊ အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း IRR မှာ (၂၈.၂)% ဖြစ်ပါသည်။

၉။ လုပ်ငန်းဆောင်ရွက်ရန်ပြည်တွင်းမှလုပ်သား (၁၆၃) ဦး ခန့်ထားမည် ဖြစ်ပြီး၊ နိုင်ငံခြားသား ပညာရှင်(၃၀)ဦးအား ခန့်ထားမည်ဖြစ်ကြောင်းတင်ပြထားပါသည်။ ဝန်ထမ်းသက်သာ ချောင်ချိရေး နှင့် လုပ်ငန်းခွင် သာယာရေး အတွက် စီစဉ်ပေး ထားပါကြောင်း ကုမ္ပဏီမှ တင်ပြထား ပါသည်။

၁၀။ ငွေကြေး အထောက်အထားအဖြစ် ကုမ္ပဏီ အမည်ဖြင့် ကမ္ဘောဇဘဏ် လီမိတက် ရှိ (၆-၁၀-၂၀၁၁) နေ့ရှိ ငွေလက်ကျန် ကျပ်(၁၅၀၀.၀၀) သန်း (သုံးစွဲမည့်ကျပ်ငွေ၏ ၁၀၅%) နှင့် နိုင်ငံခြားငွေ အထောက် အထား အဖြစ် ကုမ္ပဏီအမည်ဖြင့် (၂၀-၁၀-၂၀၁၁) နေ့ရှိ ငွေလက်ကျန် အမေရိကန် ဒေါ်လာ (၁.၈၄)သန်း (သုံးစွဲမည့်နိုင်ငံခြားငွေ၏ ၁၀၀ %) ရှိကြောင်း တင်ပြထားပါသည်။

၁၁။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများ သာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မီးဘေးအန္တရာယ်မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင်

ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်းဒေသကြီးရ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာနတွင်မှတ်ပုံတင်ထားရှိမည်ဖြစ်ကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များ ကို လိုက်နာ ဆောင်ရွက် သွားမည် ဖြစ်ကြောင်း ဝန်ခံ ကတိပြုထားပါသည်။ ထို့ပြင် သဘာဝ ပါတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဥ်များ၊ ရေဆိုးသန့်စင်စက်ရုံ တည်ဆောက်ရန် အစီအစဥ်များနှင့် သွင်းကုန်အစားထိုး စီမံကိန်းများကိုလည်း တင်ပြထားပါသည်။

၁၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကိုလည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကိုလည်းကောင်း ခံစားခွင့်ပြုရပါမည်။

၁၃။ သို့ဖြစ်ပါ၍ မဟာမိတ်ဘီယာရုံဝါရီကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) မှ ရန်ကုန်တိုင်း ဒေသကြီး၊ မှော်ဘီမြို့နယ်တွင် ဘီယာထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်းအပေါ် လမ်းညွှန်မှုခံယူအပ်ပါသည်။

အတွင်းရေးမှူး(ကိုယ်စား)
(အောင်နိုင်ဦး၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူ - ရုံးလက်ခံ

# မာတိကာ

နောက်ဆက်တွဲ(က)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

တိုင်းဒေသကြီးအစိုးရအဖွဲ့ စာအမှတ် ၃၁၉၇ ရက်စွဲ ၃၁/၁၀/၁၁ ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၂ / ၃ - ၆ ( ၃ ) / ( စီးပွား )
ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ အောက်တိုဘာလ ၃၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၇-၁၀-၂၀၁၁ ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/မ-၁၁၈၆/၂၀၁၁(၁၀၀၇၄)

၁။ မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်မှ ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်၊ လိပ်ပွတ်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၅၆၀)ရှိ မြေ (၂၄. ၈၆)ဧကတွင် ဘီယာချက်စက်ရုံတည်ဆောက်၍ ဘီယာထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြချက်နှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားပေးရန် ရည်ညွှန်းစာဖြင့် အကြောင်းကြားလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ထွက်ရှိလာသည့်ဘီယာများအား ပြည်တွင်းတွင် ရောင်းချခြင်းအားဖြင့် ပြည်ပမှ ဘီယာတင်သွင်းမှုလျော့နည်းစေပြီး နိုင်ငံခြားငွေ စီးထွက်မှုကိုလျော့နည်းစေခြင်း၊ လုပ်သားအင်အား (၁၅၀)ဦးခန့်ထားပြီး နည်းပညာသင်ကြားလေ့ကျင့်ပေးမည်ဖြစ်သဖြင့် မိမိတို့၏ပြည်သူ/သားများအလုပ်ရရှိခြင်း၊ နည်းပညာတတ်ကျွမ်းစေခြင်းတို့ကြောင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုနှင့် အလုပ်အကိုင်ရရှိမှုအတွက် အထောက်အကူဖြစ်စေမည်ဖြစ်ပါသည်။

( ခ) အဆိုပြု မြေနေရာတွင် လုပ်ငန်း ဆောင်ရွက်သင့်ပြီး လက်ရှိတွင် လုပ်ငန်းများဆောင်ရွက်ခြင်းမရှိသေးပါ။

( ဂ) စက်ရုံမှစွန့်ပစ်ပစ္စည်းများအား အာဆီယံစံချိန်စံညွှန်းများနှင့်အညီ စနစ်တကျဆောင်ရွက်ပြီး ဘေးဥပါဒ်မပေးနိုင်သည့် ပမာဏအနည်းဆုံးအဆင့်အထိ လျော့ချဆောင်ရွက်မည်ဖြစ်၍ စက်ရုံပတ်ဝန်းကျင်ထိခိုက်မှုရှိနိုင်မည်မဟုတ်ပါ။

၂။ အထက်ဖော်ပြပါအချက်များကြောင့် မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုနိုင်ပါရန် ထောက်ခံတင်ပြအပ်ပါသည်။

၃၁/၁၀

( မြင့်ဆွေ )
ဝန်ကြီးချုပ်

မိတ္တူကို

တိုင်းဒေသကြီးဝန်ကြီး၊ စီမံကိန်းနှင့်စီးပွားရေးဝန်ကြီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး

လက်ခံစာတွဲ

မျှောစာတွဲ

နောက်ဆက်တွဲ(ခ)

1-625
1619

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
**အမှတ်(၁)စက်မှုဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

စာအမှတ်၊ ၂၉ / ၁စ( ၁ ) / ၂၀၁၁ ( ၈၇၁၄ )
ရက်စွဲ၊ ၂၀၁၁ ခုနှစ် စက်တင်ဘာလ ၁၅ ရက်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂-၉-၂၀၁၁)ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/မ-ထွေ/၂၀၁၁(၈၇၅၁-ဃ)

၁။ International Beverages Trading Co., Ltd မှ မှော်ဘီမြို့နယ်၊ လိပ်ပုတ်ကျေးရွာတွင် ဘီယာထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် အမှတ်(၁)စက်မှုဝန်ကြီးဌာန၏ မူဝါဒသဘောထားမှတ်ချက်ပြန်ကြားပေးပါရန် အထက်ရည်ညွှန်းစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ဘီယာထုတ်လုပ်ခြင်းလုပ်ငန်းသည် နိုင်ငံတော်မှကန့်သတ်ထားသော အဓိကစက်မှုလုပ်ငန်း(၁၅)မျိုးတွင် အပါအဝင်ဖြစ်ပြီး အဓိကစက်မှုလုပ်ငန်းများ စစ်ဆေးရာတွင် အခက်အခဲမရှိစေရေးကိစ္စနှင့်ပတ်သက်၍ နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီရုံး၏ (၂၃-၄-၁၉၉၉)နေ့တွင် ထုတ်ပြန်သော စာအမှတ်၊ ၄၀၅/၃-၂/နယက အရ လုပ်ငန်းရှင်များသည် လုပ်ငန်းမစတင်မီ စစ်ဆေးမှုခံယူနိုင်ရန်အတွက် အချက်အလက်များပြည့်စုံသည့် အဆိုပြုလွှာဖြင့် အမှတ်(၁)စက်မှုဝန်ကြီးဌာနအောက်ရှိ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာနသို့ တင်ပြလျှောက်ထားရန် လိုအပ်ပါသည်။

၃။ လက်ရှိအချိန်၌ ပြည်တွင်းတွင် ဘီယာစက်ရုံ(၃)ရုံ တည်ရှိပြီး ကာကွယ်ရေးဝန်ကြီးဌာန၊ မြန်မာစီးပွားရေးကော်ပိုရေးရှင်းတွင်(၁)ရုံနှင့် နိုင်ငံတော်ငွေထည့်ဝင်ပါရှိသော ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်တွင်(၂)ရုံဖြစ်ပါသည်။ ပုဂ္ဂလိကလုပ်ငန်းရှင်များသို့ယနေ့အထိ တည်ဆောက်ခွင့်ပြုထားခြင်းမရှိပါ။

၄။ ၎င်းဘီယာစက်ရုံ(၃)ရုံသည် နိုင်ငံခြားသွင်းကုန်အစားထိုးရန်နှင့် နိုင်ငံခြားငွေ ချွေတာနိုင်ရန် ပြည်တွင်း၌ ထုတ်လုပ်ခြင်းဖြစ်သော်လည်း အဓိကကုန်ကြမ်းဖြစ်သော malt ၊ hop နှင့် yeast တို့ကို နိုင်ငံခြားမှ တင်သွင်းထုတ်လုပ်လျက်ရှိပါသည်။

၅။ သို့ဖြစ်ပါ၍ International Beverages Trading Co., Ltd အနေဖြင့် ဘီယာထုတ်လုပ်ရာတွင် အဓိကကုန်ကြမ်းဖြစ်သော malt ၊ hop နှင့် yeast တို့ကို ပြည်ပမှ ဝယ်ယူတင်သွင်းမှုအပြင် ရေရှည်၌ ပြည်တွင်းတွင် ထုတ်လုပ်နိုင်ရေးကိုပါ စီမံဆောင်ရွက်သင့်ပါကြောင်းနှင့် လုပ်ငန်းအဆိုပြုလွှာပြုစု၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသင့်ပါကြောင်း သဘောထားမှတ်ချက်အား ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး ( )
သောင်းမြင့်၊ ရုံးအဖွဲ့မှူး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

D:\2011(2)Sept(2)11W.doc/161

မိတ္တူကို-

ညွှန်ကြားရေးမှူးချုပ်
စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း

ရုံးတွင်းစာအကျဥ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ နိုဝင်ဘာလ ၂ ရက်

အကြောင်းအရာ။ **မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) မှ ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်တွင် ဘီယာထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းကိစ္စ**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဥ်း၍ ကော်မရှင်အစည်းအဝေးသို့ တင်ပြမည့် **အမှာစာ(စာချော)**တွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

(သီတာမြင့်)
ညွှန်ကြားရေးမှူး

**ဒုတိယညွှန်ကြားရေးမှူးချုပ်**

၂။ [illegible]

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ အောက်တိုဘာလ ၁၇ ရက်

အကြောင်းအရာ။ **International Beverages Trading Co., Ltd. မှ မဟာမိတ်ဘရူဝါရီ ကုမ္ပဏီလီမိတက် (Alliance Brewery Co., Ltd. )အမည်ဖြင့် ပြောင်းလဲ၍ မှော်ဘီမြို့နယ်၊ လိပ်ပုတ် ကျေးရွာတွင် ဘီယာ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက်တွင် ပြင်ဆင် တင်ပြလာခြင်းကိစ္စ**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ အမှတ်(၁)စက်မှုဝန်ကြီးဌာနသို့ အကြောင်းကြားမည့် **(စာချော)** တွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

(သီတာမြင့်)
ညွှန်ကြားရေးမှူး

**ဒုတိယညွှန်ကြားရေးမှူးချုပ်**

၂။ [illegible] Proposed [illegible] IBTC [illegible] Alliance Brewery Co Ltd. [illegible]

| စဉ် | အကြောင်းအရာ | ပါ (✓) မပါ (x) | အလံ | မှတ်ချက် |
|---|---|---|---|---|
| | - အဆိုပြုလုပ်ငန်းအတွက်ကုန်ကြမ်းရယူမည့်အစီအစဉ် (ပြည်တွင်း/ပြည်ပ)နှင့်ကုန်ချော ရောင်းချမည့်အစီအစဉ်တင်ပြရန်၊ ရယူမည့်ကုန်ကြမ်းသည် ဝန်ကြီးဌာနများနှင့် သက်ဆိုင်ပါက ၎င်းဝန်ကြီးဌာနများ၏ ထောက်ခံချက် တင်ပြရန်၊ ဥပမာ- သတ္တု / သစ်တောကုန်ကြမ်း၊ | | | n.c |
| | - ကုန်ကြမ်းသည် ပြည်ပမှ တင်သွင်းရန် လိုအပ်ပါက သုံးစွဲမည့် နိုင်ငံခြားငွေ ရယူမည့် အစီအစဉ် တင်ပြရန်၊ | X | | |
| | - ကုန်ချောတင်ပို့ရန် ပြည်ပဈေးကွက်အထောက်အထား တင်ပြရန်၊ ဥပမာ- ဝယ်ယူမည့် နိုင်ငံ/ကုမ္ပဏီတို့နှင့် သဘောတူညီချက်)၊ CMP စနစ်ဖြစ်ပါက Contract တင်ပြရန်၊ | | | n.c |
| | - ထုတ်လုပ်မည့် ကုန်ပစ္စည်း/ဆောင်ရွက်မည့် ဝန်ဆောင်မှု လုပ်ငန်းတို့ နှင့် စပ်လျဥ်း၍ ပတ်ဝန်းကျင် ထိခိုက်မှု ရှိ/မရှိအတွက် သက်ဆိုင်ရာဝန်ကြီးဌာန၏ ထောက်ခံချက် တင်ပြရန်၊ | | | n.c |
| | - လုပ်ငန်းသဘာဝနှင့် လျှပ်စစ်ရယူသုံးစွဲမည့် အစီအစဉ် တင်ပြရန်၊ | ✓ | | |
| ၃။ | **မတည်ရင်းနှီးငွေ**<br>- အနည်းဆုံး ကျပ်(၁၀.၀၀)သန်း ရှိရမည်။<br>(ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သည့် စာရင်းများကို နောက်ဆက်တွဲများဖြင့် အသေးစိတ်ဖော်ပြရမည်။) | ✓ | | |
| ၄။ | **စက်ပစ္စည်း/ လုပ်ငန်းသုံးပစ္စည်းများ**<br>- ပြည်တွင်း၊ ပြည်ပမှ ဝယ်ယူမည့် စာရင်း၊ | ✓ | | |
| | - ပြည်တွင်း မှ ဝယ်ယူပြီး ဖြစ်ပါက ဝယ်ယူပြီးကြောင်း အထောက်အထား | | | n.c |
| | - ပြည်ပမှ ဝယ်ယူပြီးဖြစ်ပါက ဝယ်ယူပြီးကြောင်း အထောက်အထား Import Declaration (ID)နှင့် Import License (IL)များ | | | n.c |
| ၅။ | **စီးပွားရေးဆိုင်ရာ တင်ပြချက်များ**<br>- ကုန်ကြမ်းစာရင်း (ပြည်တွင်း/ပြည်ပမှ ဝယ်ယူမှု)<br>(ကနဦးကုန်ကြမ်းလိုအပ်ချက်၊ နှစ်အလိုက်ကုန်ကြမ်းလိုအပ်ချက်) | ✓ | | |

မှတ်ချက် - n.c = Not Concern (မသက်ဆိုင်ပါ)

| စဉ် | အကြောင်းအရာ | ပါ (✓) မပါ (x) | အလံ | မှတ်ချက် |
|---|---|---|---|---|
| | - နှစ်စဉ်ထုတ်လုပ်မှု ရည်မှန်းချက် (ပြည်ပတင်ပို့မှု နှင့် ပြည်တွင်းရောင်းချမှု ရာခိုင်နှုန်း) | ✓ | | |
| | - အရှုံး/အမြတ်စာရင်း (ကိန်းဂဏန်း အချက်အလက်များ၏ ငယ်စာရင်း တင်ပြရန်) | ✓ | | |
| | - ငွေသားစီးဆင်းမှုစာရင်း (Cash Flow Statement) ၊ IRR ၊ Pay back တွက်ချက်မှုများ (ကိန်းဂဏန်း အချက်အလက်များ၏ ငယ်စာရင်း တင်ပြရန်) | ✓ | | |
| | - အမျိုးသားဝင်ငွေ တိုးတက်ရရှိနိုင်မည့် အခြေအနေ(လုပ်ငန်းမှ ရရှိမည့်အမြတ်) | ✓ | | |
| | - နိုင်ငံတော်က ရရှိမည့် အကျိုးအမြတ် အခြေအနေ (အမြတ်ခွန်/ ကုန်သွယ်လုပ်ငန်းခွန်/နိုင်ငံတော်သို့ပေးသွင်းရသည့် ငွေ) | ✓ | | |
| | - အလုပ်အကိုင် ရရှိမှု အခြေအနေ (ဝန်ထမ်းအင်အားစာရင်း၊ လစာ တွက်ချက်မှု) | ✓ | | |
| ၆။ | **<u>လုပ်ငန်းဆောင်ရွက်မည့်မြေနှင့်စပ်လျဉ်း၍ စိစစ်ခြင်း</u>** | | | |
| | - ဌာနပိုင်၊ မြေအဆောက်အဦ ပေါ်တွင် ဆောင်ရွက်မည်ဆိုပါက ရှေ့နေချုပ်ရုံး သဘောထား မှတ်ချက်နှင့်အညီ ပြင်ဆင်ထားသော စာချုပ် (မူကြမ်း) နှင့်အတူ သက်ဆိုင်ရာဝန်ကြီးဌာနမှ တစ်ဆင့် တင်ပြရန်၊ | | | n.c |
| | - စက်မှုဇုန်များတွင် ဆောင်ရွက်ပါက စက်မှုဂရန် တင်ပြရန် | | | n.c |
| | - ကိုယ်ပိုင်မြေ ဖြစ်ပါက လန/၃၉ ရရှိကြောင်း အထောက်အထား / လျှောက်ထားဆဲ အထောက်အထား/ မြေစာရင်းပုံစံ (၁၀၅) တင်ပြရန်၊ | ✓ | | |
| | - ဆောင်ရွက်မည့်လုပ်ငန်းနှင့် ပတ်သက်၍ စိစစ်ပြီးကြောင်းနှင့် ပတ်ဝန်းကျင် ထိခိုက်မှု မရှိစေရန် တာဝန်ယူကြောင်း ပြည်နယ် / တိုင်း ဒေသကြီး အစိုးရ အဖွဲ့၏ စာတင်ပြရန်၊ | x | | [illegible] |
| | - ပုဂ္ဂလိက မြေနှင့်အဆောက်အဦ ငှားရမ်း ဆောင်ရွက်ခြင်း ဖြစ်လျှင် အငှား စာချုပ် (မူကြမ်း) | | | n.c |
| | **ခွင့်ပြုကာလ** | | | |
| | BOT မြေငှားရမ်းကာလမှာ ပုံမှန်အားဖြင့် ကနဦး နှစ်(၃၀)နှင့် (၅)နှစ် သုံးကြိမ် သက်တမ်းတိုးခွင့်ရှိပါသည်။ လမ်း BOT လုပ်ငန်း | | | n.c |

မှတ်ချက် - n.c = Not Concern (မသက်ဆိုင်ပါ)

| စဉ် | အကြောင်းအရာ | ပါ (✔) မပါ (x) | အလံ | မှတ်ချက် |
|---|---|---|---|---|
| | တွင် ကနဦး နှစ် (၄၀) နှင့် (၅)နှစ် သုံးကြိမ် သက်တမ်းတိုးခွင့်ရှိပါသည်။ BOT ရေအားလျှပ်စစ်လုပ်ငန်းတွင် ကနဦး နှစ် (၆၀) နှင့် (၅)နှစ် သုံးကြိမ် သက်တမ်းတိုးခွင့်ရှိပါသည်။ | | | |
| ၇။ | **လုပ်ငန်းဆောင်ရွက်မည့်ငွေနှင့်စပ်လျဉ်း၍ စိစစ်ခြင်း** | ✓ | | |
| | - အဆိုပြုကုမ္ပဏီ၏ ခွင့်ပြုမတည်ငွေရင်း ပမာဏ (Authorized Capital) ကို စိစစ်ရန်အတွက် ကုမ္ပဏီ၏ သင်းဖွဲ့ မှတ်တမ်း / စည်းမျဉ်း တင်ပြရန်) | | | |
| | - ရင်းနှီးမြှုပ်နှံမည့် ပြည်တွင်းသုံးငွေအတွက် ဘဏ် အထောက်အထား တင်ပြရန်၊ (ယင်းငွေသည် ရင်းနှီးမြှုပ်နှံမှု ပမာဏ (ဝယ်ယူပြီး တန်ဘိုးမှအပ) ၏ အနည်းဆုံး (　)ရာခိုင်နှုန်း တင်ပြရန်) | ✗ | | |
| | - ရင်းနှီးမြှုပ်နှံမှုတွင် နိုင်ငံခြားငွေ ပါဝင်ပါက ၎င်းအတွက် MFTB/ MICB ၏Bank Statement တင်ပြရန်၊ (ယင်းငွေသည် ရင်းနှီးမြှုပ်နှံမှု ပမာဏ (ဝယ်ယူပြီး တန်ဘိုးမှအပ) ၏ အနည်းဆုံး (　) ရာခိုင်နှုန်း တင်ပြရန်) | ✗ | | |
| | - ကုမ္ပဏီပိုင်ငွေ/ BOD ပိုင်ငွေဖြင့် မလုံလောက်ပါက မိသားစု ကုမ္ပဏီပိုင်ငွေ/ ညီနောင်ကုမ္ပဏီပိုင်ငွေ အထောက် အထား တင်ပြရန်၊(ယင်းငွေသည် ရင်းနှီးမြှုပ် နှံမှု ပမာဏ (ဝယ်ယူပြီး တန်ဘိုး မှအပ) ၏ သုံးစွဲရန် အနည်းဆုံး ရာခိုင်နှုန်း တင်ပြရန်) | | | n.c |
| | - မိသားစု ကုမ္ပဏီပိုင်ငွေ/ ညီနောင်ကုမ္ပဏီပိုင်ငွေများ၏ အထောက်အထား တင်ပြမည် ဆိုပါက အဆိုပါ ကုမ္ပဏီများ၏ BOD ဆုံးဖြတ်ချက်တင်ပြရန် | | | n.c |
| | - တင်ပြလာသည့် ငွေကြေးအထောက်အထားများသည် အဆိုပြုလုပ်ငန်းတစ်ခုတည်းအတွက် တင်ပြခြင်းဟုတ်/မဟုတ် စစ်ဆေးရန်၊ | | | |
| | - ရင်းနှီးမြှုပ်နှံမည့် ငွေပမာဏ (Investment Capital ) သည် ခွင့်ပြုမတည်ငွေရင်းပမာဏ (Authorized Capital) ထက်များနေပါက ရင်းနှီးမြှုပ်နှံမှု တိုးမြှင့်ခြင်း(သို့မဟုတ်) ပြည်တွင်း/ပြည်ပ ချေးငွေ ရယူမည့်အစီအစဉ် တင်ပြရန်၊ | | | n.c |
| | - ပြည်ပချေးငွေရယူပါက လုပ်ငန်းဆိုင်ရာ ဝန်ကြီးဌာန၊ စီမံ/စီးပွား ဝန်ကြီးဌာန/ ရွှေနေချုပ်ရုံးနှင့် ဘဏ္ဍာ/အခွန် ဝန်ကြီးဌာနတို့၏ ထောက်ခံချက် တင်ပြရန်၊ | | | n.c |

မှတ်ချက် - n.c = Not Concern (မသက်ဆိုင်ပါ)

| စဉ် | အကြောင်းအရာ | ပါ (✔) မပါ (x) | အလံ | မှတ်ချက် |
|---|---|---|---|---|
| ၈။ | **အထွေထွေ** | | | |
| | - ရင်းနှီးမြှုပ်နှံသူ၏ နိုင်ငံသားစိစစ်ရေးကဒ်မိတ္တူ | ✔ | | |
| | - လုပ်ငန်းဆောင်ရွက်မည့်တည်နေရာပြမြေပုံ | ✔ | | |
| | - မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက် | ✔ | | |
| | - လုပ်ငန်းခွင်သာယာရေးနှင့်ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက် | ✔ | | |
| | - အအေးခန်း လုပ်ငန်းဖြစ်ပါက ရေဆိုးစွန့်ပစ်မှု အစီအစဉ် နှင့် Waste Water Treatment Plant တပ်ဆင်ထားမှု ဖော်ပြပေးပါရန်၊ | | | n.c |
| | - လုပ်ငန်းသဘာဝ ထူးခြားပါက လုပ်ငန်းသဘာဝ ရှင်းလင်းချက်၊ | ✔ | | |
| | - အဆောက်အဦ ဆောက်လုပ်ပြီးဖြစ်ပါက အဆောက်အဦ ဓါတ်ပုံမိတ္တူ | | | n.c |
| | - အဆောက်အဦ မဆောက်လုပ်ရသေးပါက အဆောက်အဦ ပုံစံ | X | | |
| | - ကုမ္ပဏီဖွဲ့စည်းပြီးပါက ကုမ္ပဏီမှတ်ပုံတင် လက်မှတ် / ပုံစံ (၆) (အစုရှယ်ယာ လွှဲပြောင်းမှု) / ပုံစံ (၂၆) (ဒါရိုက်တာစာရင်း) | ✔ | | Form 26 ထပ်ဖြည့်ရန် |
| | - ကုမ္ပဏီဖွဲ့စည်းခွင့် တင်ပြထားပါက တင်ပြထားသည့် လျှောက်လွှာ | | | n.c |
| | - ယခု ဆောင်ရွက်မည့် လုပ်ငန်းသည် ကုမ္ပဏီမှတ်ပုံတင် လက်မှတ်တွင် ပါရှိသည့် လုပ်ငန်းရည်ရွယ်ချက် တွင် ပါဝင်မှုရှိ/မရှိ | ✔ | | |

| | **စိစစ်သူ** | **လာရောက်တွေ့ဆုံသူ** |
|---|---|---|
| လက်မှတ် | (signature) | (signature) |
| အမည် | ဒေါ်ဖြိုးဖြိုးသူဇာအေး | ဒေါ်ခင်နှယ်သန်း |
| ရာထူး | ဒုတိယညွှန်ကြားရေးမှူး | Manager |
| ဌာနခွဲ/ကုမ္ပဏီ | ရင်းနှီး - ၂ | IBTC |
| နေ့စွဲ | ၂၇.၉.၂၀၁၁ | ၂၇.၉.၂၀၁၁ |

မှတ်ချက် - n.c = Not Concern (မသက်ဆိုင်ပါ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၂ / ၃ - ၆ ( ၃ ) / ( စီးပွား )
ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ အောက်တိုဘာလ ၃၁ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၇-၁၀-၂၀၁၁ ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/မ-၁၁၈၆/၂၀၁၁(၁၁၀၇၄)

၁။ မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်မှ ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်၊ လိပ်ပျံတံကျေးရွာအုပ်စု၊ ကွင်းအမှတ်(၅၆၀)ရှိ မြေ (၂၄. ၈၆)ဧကတွင် ဘီယာချက်စက်ရုံတည်ဆောက်၍ ဘီယာထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြချက်နှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားပေးရန် ရည်ညွှန်းစာဖြင့် အကြောင်းကြားလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ထွက်ရှိလာသည့်ဘီယာများအား ပြည်တွင်းတွင် ရောင်းချခြင်းအားဖြင့် ပြည်ပမှ ဘီယာတင် သွင်းမှုလျော့နည်းစေပြီး နိုင်ငံခြားငွေ စီးထွက်မှုကိုလျော့နည်းစေခြင်း၊ လုပ်သားအင်အား (၁၅၀)ဦးခန့်ထားပြီး နည်းပညာသင်ကြားလေ့ကျင့်ပေးမည်ဖြစ်သဖြင့် မိမိတို့၏ပြည်သူ/သား များအလုပ်ရရှိခြင်း၊ နည်းပညာတတ်ကျွမ်းစေခြင်းတို့ကြောင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက် မှုနှင့် အလုပ်အကိုင်ရရှိမှုအတွက် အထောက်အကူဖြစ်စေမည်ဖြစ်ပါသည်။

( ခ ) အဆိုပြု မြေနေရာတွင် လုပ်ငန်း ဆောင်ရွက်သင့်ပြီး လက်ရှိတွင် လုပ်ငန်းများဆောင်ရွက် ခြင်းမရှိသေးပါ။

( ဂ ) စက်ရုံမှစွန့်ပစ်ပစ္စည်းများအား အာဆီယံစံချိန်စံညွှန်းများနှင့်အညီ စနစ်တကျဆောင်ရွက်ပြီး ဘေးဥပါဒ်မပေးနိုင်သည့် ပမာဏအနည်းဆုံးအဆင့်အထိ လျော့ချဆောင်ရွက်မည်ဖြစ်၍ စက်ရုံပတ်ဝန်းကျင်ထိခိုက်မှုရှိနိုင်မည်မဟုတ်ပါ။

၂။ အထက်ဖော်ပြပါအချက်များကြောင့် မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း သစ်ဆောင်ရွက်မှုအား ခွင့်ပြုနိုင်ပါရန် ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

မိတ္တူကို

တိုင်းဒေသကြီးဝန်ကြီး၊ စီမံကိန်းနှင့်စီးပွားရေးဝန်ကြီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး

လက်ခံစာတွဲ

မျှောစာတွဲ

၅၇၉

၂၂-၉-၂၀၂၂

# လုပ်ငန်းညှိနှိုင်းရေးဌာနခွဲ စိစစ်တွေ့ရှိချက်များ

## မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု အဆိုပြုလွှာ (ထုတ်လုပ်မှုလုပ်ငန်း) တွင် ပါဝင်ရမည့် အဓိက အချက်အလက်များ (Check List )

Alliance Brewery Co.,Ltd

ကုမ္ပဏီအမည် - [illegible]

ဆောင်ရွက်မည့်လုပ်ငန်း - [illegible]

တင်ပြသည့်နေ့ - ၂၇-၉-၂၀၂၂

| စဥ် | အကြောင်းအရာ | ပါ (✔) မပါ (x) | အလံ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | **လိုအပ်သည့်အချက်များ** | | | |
| | - ဌာနပိုင်မြေတွင် ဆောင်ရွက်ခြင်းဖြစ်လျှင် သက်ဆိုင်ရာ ဝန်ကြီးဌာနမှ တစ်ဆင့်တင်ပြရန်၊ | | | n.c |
| | - ပုဂ္ဂလိကပိုင်မြေတွင် ဆောင်ရွက်ခြင်းဖြစ်လျှင် ကုမ္ပဏီမှ တိုက်ရိုက်တင်ပြရန်၊ | ✔ | | |
| | - အဆိုပြုတင်ပြခြင်းနှင့်အခွန်အကောက်ကင်းလွတ်ခွင့်လျှောက်လွှာ | ✔ | | |
| | - ကတိဝန်ခံချက် | ✔ | | |
| | - ပုံစံ မနသ ၁ | ✔ | | |
| | - BOD List | ✔ | | |
| ၂။ | **အဆိုပြုလုပ်ငန်းနှင့်စပ်လျဥ်း၍ စိစစ်ခြင်း** | | | |
| | - အဆိုပြု လုပ်ငန်းသည် နိုင်ငံတော်ကသာလျှင် ဆောင်ရွက်ခွင့် ရှိသည့် လုပ်ငန်းဖြစ်ပါက သက်ဆိုင်ရာ ဝန်ကြီးဌာနမှ အစိုးရအဖွဲ့သို့ တင်ပြ ခွင့်ပြုချက် ရယူရန် ၊ ဥပမာ- လေကြောင်း ပို့ဆောင်ရေး လုပ်ငန်း၊ ရေအားလျှပ်စစ်ထုတ်လုပ်မှုလုပ်ငန်း၊----၊ | | | n.c |
| | - ထုတ်လုပ်မှု /ဝန်ဆောင်မှု ဆိုင်ရာ အဆိုပြုလုပ်ငန်းများ အတွက် သက်ဆိုင်ရာဝန်ကြီး ဌာန၏ ထောက်ခံချက် တင်ပြရန်၊ | | | n.c |
| | - ဌာနပိုင်၊ မြေအဆောက်အဦ ငှားရမ်း ဆောင်ရွက်ခြင်း ဖြစ်လျှင် ဌာနနှင့်ချုပ်ဆိုသည့်စာချုပ်(မူကြမ်း)နှင့်ရှေ့နေချုပ်ရုံးသဘောထား | | | n.c |
| | - ပုဂ္ဂလိက မြေနှင့်အဆောက်အဦ ငှားရမ်း ဆောင်ရွက်ခြင်း ဖြစ်လျှင် အငှား စာချုပ် (မူကြမ်း)တင်ပြရန်၊ | | | n.c |

မှတ်ချက် - n.c = Not Concern (မသက်ဆိုင်ပါ)

| စဉ် | အကြောင်းအရာ | ပါ (✔) မပါ (x) | အလံ | မှတ်ချက် |
|---|---|---|---|---|
| | - အဆိုပြုလုပ်ငန်းအတွက်ကုန်ကြမ်းရယူမည့်အစီအစဉ် (ပြည်တွင်း/ပြည်ပ)နှင့်ကုန်ချော ရောင်းချမည့်အစီအစဉ်တင်ပြရန်၊ ရယူမည့် ကုန်ကြမ်းသည် ဝန်ကြီးဌာနများနှင့် သက်ဆိုင်ပါက ၎င်းဝန်ကြီးဌာနများ၏ ထောက်ခံချက် တင်ပြရန်၊ ဥပမာ- သတ္တု / သစ်တော ကုန်ကြမ်း၊ | | | n.c |
| | - ကုန်ကြမ်းသည် ပြည်ပမှ တင်သွင်းရန် လိုအပ်ပါက သုံးစွဲမည့် နိုင်ငံခြားငွေ ရယူမည့် အစီအစဉ် တင်ပြရန်၊ | x | | |
| | - ကုန်ချောတင်ပို့ရန် ပြည်ပဈေးကွက်အထောက်အထား တင်ပြရန်၊ ဥပမာ- ဝယ်ယူမည့် နိုင်ငံ/ကုမ္ပဏီတို့နှင့် သဘောတူညီချက်)၊ CMP စနစ်ဖြစ်ပါက Contract တင်ပြရန်၊ | | | n.c |
| | - ထုတ်လုပ်မည့် ကုန်ပစ္စည်း/ဆောင်ရွက်မည့် ဝန်ဆောင်မှု လုပ်ငန်းတို့ နှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင် ထိခိုက်မှု ရှိ/မရှိအတွက် သက်ဆိုင်ရာဝန်ကြီးဌာန၏ ထောက်ခံချက် တင်ပြရန်၊ | | | n.c |
| | - လုပ်ငန်းသဘာဝနှင့် လျှပ်စစ်ရယူသုံးစွဲမည့် အစီအစဉ် တင်ပြရန်၊ | ✔ | | |
| ၃။ | **မတည်ရင်းနှီးငွေ**<br>- အနည်းဆုံး ကျပ်(၁၀.၀၀)သန်း ရှိရမည်။<br>(ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သည့် စာရင်းများကို နောက်ဆက်တွဲများဖြင့် အသေးစိတ်ဖော်ပြရမည်။) | ✔ | | |
| ၄။ | **စက်ပစ္စည်း/ လုပ်ငန်းသုံးပစ္စည်းများ**<br>- ပြည်တွင်း၊ ပြည်ပမှ ဝယ်ယူမည့် စာရင်း၊ | ✔ | | |
| | - ပြည်တွင်း မှ ဝယ်ယူပြီး ဖြစ်ပါက ဝယ်ယူပြီးကြောင်း အထောက်အထား | | | n.c |
| | - ပြည်ပမှ ဝယ်ယူပြီးဖြစ်ပါက ဝယ်ယူပြီးကြောင်း အထောက်အထား Import Declaration (ID)နှင့် Import License (IL)များ | | | n.c |
| ၅။ | **စီးပွားရေးဆိုင်ရာ တင်ပြချက်များ**<br>- ကုန်ကြမ်းစာရင်း (ပြည်တွင်း/ပြည်ပမှ ဝယ်ယူမှု)<br>(ကနဦးကုန်ကြမ်းလိုအပ်ချက်၊ နှစ်အလိုက်ကုန်ကြမ်းလိုအပ်ချက်) | ✔ | | |

မှတ်ချက် - n.c = Not Concern (မသက်ဆိုင်ပါ)

| စဉ် | အကြောင်းအရာ | ပါ (✓) မပါ (x) | အလံ | မှတ်ချက် |
|---|---|---|---|---|
| | - နှစ်စဉ်ထုတ်လုပ်မှု ရည်မှန်းချက် (ပြည်ပတင်ပို့မှု နှင့် ပြည်တွင်းရောင်းချမှု ရာခိုင်နှုန်း) | ✓ | | |
| | - အရှုံး/အမြတ်စာရင်း (ကိန်းဂဏန်း အချက်အလက်များ၏ ငယ်စာရင်း တင်ပြရန်) | ✓ | | |
| | - ငွေသားစီးဆင်းမှုစာရင်း (Cash Flow Statement) ၊ IRR ၊ Pay back တွက်ချက်မှုများ (ကိန်းဂဏန်း အချက်အလက်များ၏ ငယ်စာရင်း တင်ပြရန်) | ✓ | | |
| | - အမျိုးသားဝင်ငွေ တိုးတက်ရရှိနိုင်မည့် အခြေအနေ(လုပ်ငန်းမှ ရရှိမည့်အမြတ်) | ✓ | | |
| | - နိုင်ငံတော်က ရရှိမည့် အကျိုးအမြတ် အခြေအနေ (အမြတ်ခွန်/ ကုန်သွယ်လုပ်ငန်းခွန်/နိုင်ငံတော်သို့ပေးသွင်းရသည့် ငွေ) | ✓ | | |
| | - အလုပ်အကိုင် ရရှိမှု အခြေအနေ (ဝန်ထမ်းအင်အားစာရင်း၊ လစာ တွက်ချက်မှု) | ✓ | | |
| ၆။ | **<u>လုပ်ငန်းဆောင်ရွက်မည့်မြေနှင့်စပ်လျဉ်း၍ စိစစ်ခြင်း</u>** | | | |
| | - ဌာနပိုင် မြေအဆောက်အဦ ပေါ်တွင် ဆောင်ရွက်မည်ဆိုပါက ရှေ့နေချုပ်ရုံး သဘောထား မှတ်ချက်နှင့်အညီ ပြင်ဆင်ထားသော စာချုပ် (မူကြမ်း) နှင့်အတူ သက်ဆိုင်ရာဝန်ကြီးဌာနမှ တစ်ဆင့် တင်ပြရန်၊ | | | n.c |
| | - စက်မှုဇုန်များတွင် ဆောင်ရွက်ပါက စက်မှုဂရန် တင်ပြရန် | | | n.c |
| | - ကိုယ်ပိုင်မြေ ဖြစ်ပါက လန/၃၉ ရရှိကြောင်း အထောက်အထား / လျှောက်ထားဆဲ အထောက်အထား/ မြေစာရင်းပုံစံ (၁၀၅) တင်ပြရန်၊ | ✓ | | |
| | - ဆောင်ရွက်မည့်လုပ်ငန်းနှင့် ပတ်သက်၍ စိစစ်ပြီးကြောင်းနှင့် ပတ်ဝန်းကျင် ထိခိုက်မှု မရှိစေရန် တာဝန်ယူကြောင်း ပြည်နယ် / တိုင်း ဒေသကြီး အစိုးရ အဖွဲ့၏ စာတင်ပြရန်၊ | x | | [illegible] |
| | - ပုဂ္ဂလိက မြေနှင့်အဆောက်အဦ ငှားရမ်း ဆောင်ရွက်ခြင်း ဖြစ်လျှင် အငှား စာချုပ် (မူကြမ်း) | | | n.c |
| | ခွင့်ပြုကာလ<br>BOT မြေငှားရမ်းကာလမှာ ပုံမှန်အားဖြင့် ကနဦး နှစ်(၃၀)နှင့် (၅)နှစ် သုံးကြိမ် သက်တမ်းတိုးခွင့်ရှိပါသည်။ လမ်း BOT လုပ်ငန်း | | | n.c |

မှတ်ချက် - n.c = Not Concern (မသက်ဆိုင်ပါ)

| စဉ် | အကြောင်းအရာ | ပါ (✔) မပါ (x) | အလံ | မှတ်ချက် |
|---|---|---|---|---|
| | တွင် ကနဦး နှစ် (၄၀) နှင့် (၅)နှစ် သုံးကြိမ် သက်တမ်းတိုးခွင့်ရှိပါသည်။ BOT ရေအားလျှပ်စစ်လုပ်ငန်းတွင် ကနဦး နှစ် (၆၀) နှင့် (၅)နှစ် သုံးကြိမ် သက်တမ်းတိုးခွင့်ရှိပါသည်။ | | | |
| ၇။ | **<u>လုပ်ငန်းဆောင်ရွက်မည့်ငွေနှင့်စပ်လျဉ်း၍ စိစစ်ခြင်း</u>**<br>- အဆိုပြုကုမ္ပဏီ၏ ခွင့်ပြုမတည်ငွေရင်း ပမာဏ (Authorized Capital) ကို စိစစ်ရန်အတွက် ကုမ္ပဏီ၏ သင်းဖွဲ့ မှတ်တမ်း / စည်းမျဉ်း တင်ပြရန်)<br>- ရင်းနှီးမြှုပ်နှံမည့် ပြည်တွင်းသုံးငွေအတွက် ဘဏ် အထောက်အထား တင်ပြရန်၊ (ယင်းငွေသည် ရင်းနှီးမြှုပ်နှံမှု ပမာဏ (ဝယ်ယူပြီး တန်ဘိုးမှအပ) ၏ အနည်းဆုံး (  )ရာခိုင်နှုန်း တင်ပြရန်)<br>- ရင်းနှီးမြှုပ်နှံမှုတွင် နိုင်ငံခြားငွေ ပါဝင်ပါက ၎င်းအတွက် MFTB/ MICB ၏Bank Statement တင်ပြရန်၊ (ယင်းငွေသည် ရင်းနှီးမြှုပ်နှံမှု ပမာဏ (ဝယ်ယူပြီး တန်ဘိုးမှအပ) ၏ အနည်းဆုံး (  ) ရာခိုင်နှုန်း တင်ပြရန်)<br>- ကုမ္ပဏီပိုင်ငွေ/ BOD ပိုင်ငွေဖြင့် မလုံလောက်ပါက မိသားစု ကုမ္ပဏီပိုင်ငွေ/ ညီနောင်ကုမ္ပဏီပိုင်ငွေ အထောက် အထား တင်ပြရန်၊(ယင်းငွေသည် ရင်းနှီးမြှုပ် နှံမှု ပမာဏ (ဝယ်ယူပြီး တန်ဘိုး မှအပ) ၏ သုံးစွဲရန် အနည်းဆုံး ရာခိုင်နှုန်း တင်ပြရန်)<br>- မိသားစု ကုမ္ပဏီပိုင်ငွေ/ ညီနောင်ကုမ္ပဏီပိုင်ငွေများ၏ အထောက်အထား တင်ပြမည် ဆိုပါက အဆိုပါ ကုမ္ပဏီများ၏ BOD ဆုံးဖြတ်ချက်တင်ပြရန်<br>- တင်ပြလာသည့် ငွေကြေးအထောက်အထားများသည် အဆိုပြုလုပ်ငန်းတစ်ခုတည်းအတွက် တင်ပြခြင်းဟုတ်/မဟုတ် စစ်ဆေးရန်၊<br>- ရင်းနှီးမြှုပ်နှံမည့် ငွေပမာဏ (Investment Capital ) သည် ခွင့်ပြုမတည်ငွေရင်းပမာဏ (Authorized Capital) ထက်များနေပါက ရင်းနှီးမြှုပ်နှံမှု တိုးမြှင့်ခြင်း(သို့မဟုတ်) ပြည်တွင်း/ပြည်ပ ချေးငွေ ရယူမည့်အစီအစဉ် တင်ပြရန်၊<br>- ပြည်ပချေးငွေရယူပါက လုပ်ငန်းဆိုင်ရာ ဝန်ကြီးဌာန၊ စီမံ/စီးပွား ဝန်ကြီးဌာန/ ရှေ့နေချုပ်ရုံးနှင့် ဘဏ္ဍာ/အခွန် ဝန်ကြီးဌာနတို့၏ ထောက်ခံချက် တင်ပြရန်၊ | ✔<br>✗<br>✗ | | n.c<br>n.c<br>n.c<br>n.c |

မှတ်ချက် - n.c = Not Concern (မသက်ဆိုင်ပါ)

| စဉ် | အကြောင်းအရာ | ပါ (✓) မပါ (x) | အလံ | မှတ်ချက် |
|---|---|---|---|---|
| ၈။ | **အထွေထွေ** | | | |
| | - ရင်းနှီးမြှုပ်နှံသူ၏ နိုင်ငံသားစိစစ်ရေးကဒ်မိတ္တူ | ✓ | | |
| | - လုပ်ငန်းဆောင်ရွက်မည့်တည်နေရာပြမြေပုံ | ✓ | | |
| | - မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက် | ✓ | | |
| | - လုပ်ငန်းခွင်သာယာရေးနှင့်ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက် | ✓ | | |
| | - အအေးခန်း လုပ်ငန်းဖြစ်ပါက ရေဆိုးစွန့်ပစ်မှု အစီအစဉ် နှင့် Waste Water Treatment Plant တပ်ဆင်ထားမှု ဖော်ပြပေးပါရန်၊ | | | n.c |
| | - လုပ်ငန်းသဘာဝ ထူးခြားပါက လုပ်ငန်းသဘာဝ ရှင်းလင်းချက်၊ | ✓ | | |
| | - အဆောက်အဦ ဆောက်လုပ်ပြီးဖြစ်ပါက အဆောက်အဦ ဓါတ်ပုံမိတ္တူ | | | n.c |
| | - အဆောက်အဦ မဆောက်လုပ်ရသေးပါက အဆောက်အဦ ပုံစံ | X | | |
| | - ကုမ္ပဏီဖွဲ့စည်းပြီးပါက ကုမ္ပဏီမှတ်ပုံတင် လက်မှတ် / ပုံစံ (၆) (အစုရှယ်ယာ လွှဲပြောင်းမှု) / ပုံစံ (၂၆) (ဒါရိုက်တာစာရင်း) | ✓ | | Form 26 [illegible] |
| | - ကုမ္ပဏီဖွဲ့စည်းခွင့် တင်ပြထားပါက တင်ပြထားသည့် လျှောက်လွှာ | | | n.c |
| | - ယခု ဆောင်ရွက်မည့် လုပ်ငန်းသည် ကုမ္ပဏီမှတ်ပုံတင် လက်မှတ်တွင် ပါရှိသည့် လုပ်ငန်းရည်ရွယ်ချက် တွင် ပါဝင်မှုရှိ/မရှိ | ✓ | | |

| | **စိစစ်သူ** | **လာရောက်တွေ့ဆုံသူ** |
|---|---|---|
| လက်မှတ် | (signature) | (signature) |
| အမည် | [illegible] | [illegible] |
| ရာထူး | [illegible] | Manager |
| ဌာနခွဲ/ကုမ္ပဏီ | ရင်း-၂ | IBTC |
| နေ့စွဲ | ၂၇.၉.၂၀၂၂ | ၂၇.၉.၂၀၂၂ |

မှတ်ချက် - n.c = Not Concern (မသက်ဆိုင်ပါ)

Check List.doc

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ရက-၆(က)/မ- ၁၁၈၆ /၂၀၁၁(         )

ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ အောက်တိုဘာ လ     ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်

အမှာစာ

အကြောင်းအရာ။ **မဟာမိတ်ဘီယာချက်လုပ်ရေးကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) မှ ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်တွင် ဘီယာထုတ်လုပ် ရောင်းချ ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်း ကိစ္စ**

၁။ မဟာမိတ်ဘီယာချက်လုပ်ရေးကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) သည် ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်၊ လိပ်ပွတ်ကျေးရွာအုပ်စု ၊ ကွင်းအမှတ်(၅၆၀)ရှိ မြေ(၂၄.၆၈)ဧက တွင် ဘီယာထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန်ဦးအောင်မိုးကျော် (အဘ -ဦးလှမြင့်)မှ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်နှင့် စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ သို့ သဘောထား တောင်းခံခဲ့ရာ ဝန်ကြီးချုပ်ကိုယ်တိုင် လက်မှတ်ရေးထိုး၍ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-(နောက်ဆက်တွဲ-က)

(က) ထွက်ရှိလာသော ဘီယာများအား ပြည်တွင်းတွင်ရောင်းချခြင်းဖြင့် ပြည်ပ တင်သွင်းမှု လျှော့နည်းစေပြီး နိုင်ငံခြားငွေစီးထွက်မှုကို လျှော့နည်းစေခြင်း၊ လုပ်သားများအတွက် နည်းပညာ နှင့် အလုပ်အကိုင်ရရှိခြင်း၊ ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှု ရှိခြင်း၊

(ခ) အဆိုပြုမြေနေရာတွင် လုပ်ငန်းဆောင်ရွက်ရန်သင့်လျော်ပါကြောင်း၊

(ဂ) စက်ရုံမှစွန့်ပစ်ပစ္စည်းများအား ဘေးဥပါဒ်မပေးနိုင်သည့်ပမာဏအနည်းဆုံးအဆင့်ထိ လျှော့ချဆောင်ရွက်မည်ဖြစ်ပါ၍ ပတ်ဝန်းကျင်ထိခိုက်မှုမရှိနိုင်ပါကြောင်းနှင့် လုပ်ငန်း ဆောင်ရွက်ခြင်းကိုထောက်ခံပါကြောင်း၊

၃။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့် နှင့် စပ်လျဉ်း၍ အမှတ်(၁) စက်မှုဝန်ကြီးဌာန၊မြန်မာ့ ဆေးဝါး နှင့် စားသောက်ကုန်လုပ်ငန်းမှ " ဘီယာထုတ်လုပ်ခြင်းလုပ်ငန်းသည် နိုင်ငံတော်မှ ကန့်သတ် ထားသောအဓိကစက်မှုလုပ်ငန်း (၁၅)မျိုးတွင် ပါဝင်ပြီး အဓိကစက်မှုလုပ်ငန်းများစစ်ဆေးရာတွင် အခက်အခဲမရှိစေရေးကိစ္စ နှင့် ပတ်သက်၍ နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး ၏ (၂၃-၄-၁၉၉၉) နေ့တွင် ထုတ်ပြန်သော စာအမှတ်၊ ၄၀၅/၃-၂/နယက အရ လုပ်ငန်းရှင် များ သည် လုပ်ငန်းမစတင်မီ စစ်ဆေးမှု ခံယူနိုင်ရန်အတွက် အချက်အလက်များ ပြည့်စုံသည့် အဆိုပြုလွှာ ဖြင့် အမှတ်(၁)စက်မှုဝန်ကြီး ဌာနအောက်ရှိ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနသို့ တင်ပြ

လျှို့ဝှက်

လျှောက်ထားရန်လိုအပ်ပါကြောင်း၊ ယခုအခါ ပြည်တွင်းတွင် ဘီယာစက်ရုံ(၃)ရုံ တည်ရှိပြီး ကာကွယ်ရေး ဝန်ကြီးဌာန၊ မြန်မာ့ စီးပွားရေး ကော်ပိုရေးရှင်း နှင့် နိုင်ငံတော်ငွေထည့်ဝင်ပါရှိသော ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေး ဦးပိုင် လီမိတက်တို့တွင် (၂)ရုံ ရှိပြီး၊ ပုဂ္ဂလိကလုပ်ငန်းရှင်သို့ ခွင့်ပြုထားခြင်း မရှိပါကြောင်း၊ ၎င်း ဘီယာ စက်ရုံ(၃)ရုံသည် သွင်းကုန်အစားထိုးရန်နှင့် နိုင်ငံခြားငွေ ချွေတာနိုင်ရန် ပြည်တွင်း၌ ထုတ်လုပ် ခြင်း ဖြစ်သော်လည်း အဓိကကုန်ကြမ်းဖြစ်သော malt , hop နှင့် yeast တို့ကို နိုင်ငံခြားမှ တင်သွင်း ရ ပါကြောင်း၊ သို့ဖြစ်ပါ၍ အဆိုပြု ကုမ္ပဏီအနေဖြင့် ဘီယာထုတ်လုပ်ရာတွင် အဓိက ကုန်ကြမ်း ဖြစ်သော malt , hop နှင့် yeast တို့ကို ပြည်ပမှ တင်သွင်းမှု အပြင် ပြည်တွင်းတွင် ထုတ်လုပ် နိုင်ရေးကိုပါ စီမံဆောင်ရွက် သင့်ပါကြောင်း နှင့် အဆိုပြုလွှာပြုစု၍ ကော်မရှင် သို့ တင်ပြ သင့် ပါကြောင်း " သဘောထား ပြန်ကြားထားပါသည်။(နောက်ဆက်တွဲ-ခ)

၄။ လုပ်ငန်း အဆိုပြုချက်ကို (<u>နောက်ဆက်တွဲ - ဂ</u>)ဖြင့် ဖော်ပြထားပါသည်။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ (၁.၈၄)သန်းအပါအဝင် ကျပ် (၁၅၈၅.၈၈) သန်း ဖြစ်ပါသည်။ လုပ်ငန်းအတွက် လိုအပ်သော စက် ပစ္စည်းများ အမေရိကန်ဒေါ်လာ (၁.၈၄)သန်း ဖိုးအား ပြည်ပ မှ ဝယ်ယူမည် ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမည့် အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | |
|---|---|
| **<u>စုစုပေါင်းရင်းနှီးမြှုပ်နှံမှု</u>** | **<u>ကျပ် ၁၅၈၅.၈၈ သန်း</u> (US$ ၁.၈၄ သန်း အပါအဝင်)** |
| (က) စက်ပစ္စည်းကိရိယာများ | ၁၁.၀၃ (US$ ၁.၈၄ သန်း ) |
| (ခ) အဆောက်အဦ | ၁၄၃၃.၇၆ |
| (ဂ) မြေ | ၁၄၁.၀၉ |

၅။ လျှပ်စစ်ဓါတ်အားကို ရန်ကုန်မြို့တော်လျှပ်စစ်ဓါတ်အားပေးရေးအဖွဲ့မှ ခွင့်ပြုထားသော (၃၃/၁၁)ကေဗွီ၊ (၃)အမ်ဗွီအေ ခွဲရုံ မှ ရယူမည် ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၆။ အဆိုပြုလုပ်ငန်းမှဘီယာများထုတ်လုပ်မည်ဖြစ်ပြီး၊ ~~နှစ်အလိုက်~~ ထုတ်လုပ်နိုင်မှုနှင့် ဝင်ငွေများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဥ် | အမျိုးအစား | ထုတ်လုပ်မှု | ဝင်ငွေ (ကျပ်သန်း) | ထုတ်လုပ်မည့် ကာလ |
|---|---|---|---|---|
| ၁။ | KEG | ၂၉၂၆၅၈ | ၈၄၂၉ | ၂၀၁၄ မှ ၂၀၂၃ အထိ |
| ၂။ | Bottle | ၇၂၇၃၁၆၂ | ၅၈၁၉ | ၂၀၁၄ မှ ၂၀၂၃ အထိ |
| ၃။ | Can | ၁၄၈၅၄၆၃၅ | ၅၂၂၉ | ၂၀၂၁ မှ ၂၀၂၃ အထိ |

၇။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

အမေရိကန်တစ်ဒေါ်လာ= ၆ ကျပ်

| | နိုင်ငံခြားငွေဖြင့် US$(သန်း) | ညီမျှသော ကျပ်(သန်း) | ကျပ်ငွေဖြင့် ကျပ်(သန်း) | စုစုပေါင်းကျပ် ကျပ်(သန်း) |
|---|---|---|---|---|
| ဝင်ငွေ | - | - | ၂၆၆၀၁.၂၂ | ၂၆၆၀၁.၂၂ |
| အသုံးစရိတ် | - | - | [illegible] | [illegible] |
| အသားတင် အမြတ် | - | - | [illegible] | [illegible] |

အမေရိကန်တစ်ဒေါ်လာ= ၈၀၀ကျပ်

| | နိုင်ငံခြားငွေဖြင့် US$(သန်း) | ညီမျှသော ကျပ်(သန်း) | ကျပ်ငွေဖြင့် ကျပ်(သန်း) | စုစုပေါင်းကျပ် ကျပ်(သန်း) |
|---|---|---|---|---|
| ဝင်ငွေ | - | - | ၂၆၆၀၁.၂၂ | ၂၆၆၀၁.၂၂ |
| အသုံးစရိတ် | - | - | [illegible] | [illegible] |
| အသားတင်အမြတ် | - | - | ၈၉၅၇.၂၀ | ၈၉၅၇.၂၀ |

၈။ နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ် လုပ်ငန်း ခွန်ကျပ် (၈၇၇၈.၄၀) သန်း နှင့်ဝင်ငွေခွန်ကျပ်(၃၈၃၄.၅၂)သန်း ရရှိမည် ဖြစ်ပါသည်။

၉။ လုပ်ငန်းဆောင်ရွက်ရန်ပြည်တွင်းမှလုပ်သား (၁၆၃) ဦး ခန့်ထားမည် ဖြစ်ပြီး၊ နိုင်ငံခြားသား ပညာရှင်(၃၀)ဦးအား ခန့်ထားမည်ဖြစ်ကြောင်းတင်ပြထားပါသည်။ ဝန်ထမ်းသက်သာ ချောင်ချိရေး နှင့် လုပ်ငန်းခွင် သာယာရေး အတွက် စီစဉ်ပေး ထားပါကြောင်း ကုမ္ပဏီမှ တင်ပြထား ပါသည်။

၁၀။ ငွေကြေး အထောက်အထားအဖြစ် ကုမ္ပဏီ အမည်ဖြင့် ကမ္ဘောဇဘဏ် လီမိတက်ရှိ (၆-၁၀-၂၀၁၁) နေ့ရှိ ငွေလက်ကျန် ကျပ်(၁၅၀၀.၀၀)သန်း (သုံးစွဲမည့်ကျပ်ငွေ၏ %)နှင့် နိုင်ငံခြားငွေ အထောက်အထား အဖြစ် ကုမ္ပဏီအမည်ဖြင့် (၂၀-၁၀-၂၀၁၁) နေ့ရှိ ငွေလက်ကျန် အမေရိကန်ဒေါ်လာ (၇.၈၄)သန်း (သုံးစွဲမည့်နိုင်ငံခြားငွေ၏ %) ရှိကြောင်း တင်ပြထားပါသည်။

၁၁။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများ သာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မီးဘေးအန္တရာယ်မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်း

စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိမည်ဖြစ်ကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊ နိုင်ငံခြားငွေဖြင့် ရရှိသော CMP အခ ကြေးငွေများကို မြန်မာ့နိုင်ငံခြား ကုန်သွယ်မှုဘဏ်နှင့် မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်ရှိ ကုမ္ပဏီ၏ ငွေစာရင်းသို့ မပျက်မကွက် ပေးသွင်းမည် ဖြစ်ကြောင်း ဝန်ခံ ကတိပြုထားပါသည်။

၁၂။ ထို့ပြင် သဘာဝ ပါတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်များ၊ ရေဆိုးသန့်စင်စက်ရုံ တည်ဆောက် ရန်အစီအစဉ်များနှင့် သွင်းကုန်အစားထိုးစီမံကိန်းများကိုလည်းတင်ပြထားပါသည်။

၁၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကိုလည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကိုလည်းကောင်း ခံစားခွင့်ပြုရပါမည်။

၁၃။ သို့ဖြစ်ပါ၍ မဟာမိတ်ဘရူပါရီကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) မှ ရန်ကုန်တိုင်း ဒေသကြီး၊ မှော်ဘီမြို့နယ်တွင် ဘီယာထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်းအပေါ် လမ်းညွှန်မှု ခံယူအပ်ပါသည်။

အတွင်းရေးမှူး(ကိုယ်စား)
(အေးကို၊ ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ - ရုံးလက်ခံ

မဟာမိတ်ဘီယာချက်လုပ်ရေးကုမ္ပဏီလီမိတက်(Alliance Brewery Co., Ltd.) မှ ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်တွင် ဘီယာထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက်တင်ပြခြင်း ကိစ္စအား မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း(၅) ၊အပိုဒ် (၈)နှင့် (၉)ပါ အချက်များ အရ စိစစ်ပြီး မှန်ကန်ပါကြောင်း တင်ပြအပ်ပါ သည်။

(မီမီသန္တာချို)
ဒုတိယဦးစီးမှူး

(သီတာမြင့်)
ညွှန်ကြားရေးမှူး

## မာတိကာ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ဖက်(စ)၉၅-၆၇-၄၀၆၁၆၁ တယ်လီဖုန်း-၀၆၇-၄၀၆၁၃၉၊ ၄၀၆၁၆၁

စာအမှတ်၊ ရက-၆(က) / မ-၁၁၈၆/၂၀၁၁(          )
ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ အောက်တိုဘာလ       ရက်

သို့

ပြည်ထောင်စုဝန်ကြီးရုံး
အမှတ်(၁)စက်မှု ဝန်ကြီးဌာန

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ မဟာမိတ်ဘရူဝါရီ ကုမ္ပဏီလီမိတက် ( Alliance Brewery Co., Ltd. ) ၏ (၃၀-၉-၂၀၁၁) ရက်စွဲပါတင်ပြစာ

၁။ International Beverages Trading Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်၊ လိပ်ပြုတ်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၅၆၀) ရှိ လန(၃၉) မြေ (၂၄. ၈၆)ဧကတွင် ဘီယာချက်စက်ရုံတည်ဆောက်၍ ဘီယာထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် (၃၀-၈-၂၀၁၁)ရက်စွဲပါစာဖြင့် တင်ပြခဲ့ပါသည်။

၂။ အထက်ပါ အဆိုပြုချက် နှင့် စပ်လျဉ်း၍မူဝါဒသဘောထား မှတ်ချက် ပြန်ကြား ပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ (၂-၉-၂၀၁၁)ရက်စွဲပါစာဖြင့် အမှတ်(၁)စက်မှုဝန်ကြီးဌာနသို့ သဘောထားမှတ်ချက်တောင်းခံခဲ့ရာ အမှတ်(၁)စက်မှုဝန်ကြီးဌာန မှ (၁၅-၉-၂၀၁၁)ရက်စွဲပါ စာဖြင့် သဘောထားပြန်ကြားခဲ့ပါသည်။

၃။ ယခုအခါကုမ္ပဏီမှ မူလအဆိုပြုနေရာတွင် International Beverages Trading Co., Ltd. အမည်အစား မဟာမိတ်ဘရူဝါရီ ကုမ္ပဏီလီမိတက် (Alliance Brewery Co., Ltd. ) ကို အသစ်ဖွဲ့စည်း၍ အမည်ပြောင်းလဲလုပ်ကိုင်ခွင့်ပြုပါရန် ရည်ညွှန်းချက်ပါစာဖြင့် တင်ပြလာပါသည်။

၄။ သို့ဖြစ်ပါ၍ အဆိုပါမြေနေရာတွင် ကုမ္ပဏီ အမည်ပြောင်းလဲလုပ်ကိုင်ခြင်းအား သိရှိနိုင်ပါရန် နှင့် လိုအပ်သကဲ့သို့ ဆက်လက်ဆောင်ရွက်နိုင်ပါရန် အကြောင်းကြားအပ်ပါသည်။

အတွင်းရေးမှူး (ကိုယ်စား)
(အောင်နိုင်ဦး၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူ -
- ဦးဆောင်ညွှန်ကြားရေးမှူး
  မြန်မာ့ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း၊
  အမှတ်(၁)စက်မှုဝန်ကြီးဌာန။
- ရုံးလက်ခံ / မျှောစာတွဲ။

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ အောက်တိုဘာ လ ၄ ရက်။

အကြောင်းအရာ။ **မဟာမိတ် ဘရူဝါရီကုမ္ပဏီ လီမိတက် (Alliance Brewery Co., Ltd.)မှ ဘီယာချက်စက်ရုံ တည်ဆောက်၍ ဘီယာထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ**

M-025
5/10

၁။ မဟာမိတ် ဘရူဝါရီကုမ္ပဏီ လီမိတက် မှ ရန်ကုန်တိုင်း ဒေသကြီး၊ မှော်ဘီ မြို့နယ်၊ လိပ်ပွတ်ကျေးရွာအုပ်စု ၊ကွင်းအမှတ် (၅၆၀) ရှိ လန-၃၉ မြေ(၂၄.၈၆)ဧက တွင် ဘီယာချက်စက်ရုံ တည်ဆောက်၍ ဘီယာထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြခဲ့ပါသည်။

၂။ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်ခွင့်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ တိုင်းဒေသကြီးနှင့် ပြည်နယ်အစိုးရက ထောက်ခံချက်ပေးရာတွင် ဝန်ကြီးချုပ် ကိုယ်တိုင် စိစစ်ပြီး ထောက်ခံပေးပါရန် နိုင်ငံတော်သမ္မတရုံး၏ ရည်ညွှန်းချက် (၁)ပါ စာအပိုဒ် ၃(စ)တွင် ဖော်ပြထား ပါသည်။

၃။ သို့ဖြစ်ပါ၍ **မဟာမိတ် ဘရူဝါရီကုမ္ပဏီ လီမိတက် (Alliance Brewery Co., Ltd.)**မှ ဘီယာချက်စက်ရုံ တည်ဆောက်၍ ဘီယာထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်း ကိစ္စနှင့်စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့သို့ သဘောထား တောင်းခံမည့် **စာချော** တွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

(အေးကို)
ညွှန်ကြားရေးမှူးချုပ်

<u>တွဲဖက်အတွင်းရေးမှူး</u>

**Alliance Brewery Company Limited**

No. R-18, S-19, Sittaung Street, Pyinnyawaddy Avenue, Yankin Township, Yangon, Union of Myanmar.
Tel : 95-1-559833, 551616 Fax : 95-1-559876


သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
နေပြည်တော်။

ရက်စွဲ။ ။ ၂၀၁၁ခုနှစ်၊ စက်တင်ဘာလ (၃၀) ရက်။

**အကြောင်းအရာ။** ။ **IBTC ကုမ္ပဏီစုမှ မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာ တင်ထား သော ကုမ္ပဏီအသစ်၏အမည်ကိုတင်ပြခြင်း။**

လူကြီးမင်းခင်ဗျား၊

ကျွန်တော်များ၏ IBTC ကုမ္ပဏီစုမှ ၃၀-၈-၂၀၁၁ နေ့စွဲဖြင့် အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာနသို့ ဘီယာထုတ်လုပ်ရောင်းချခွင့်ပြုပါရန် လျှောက်ထားခဲ့ရာတွင် IBTC ကုမ္ပဏီစုအနေဖြင့် လျှောက်ထားခဲ့ပါသည်။ ယခုအခါဘီယာ ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းကို Alliance Brewery Company Limited ဟူသောအမည်ဖြင့် ကုမ္ပဏီဖွဲ့စည်း၍ လျှောက်ထား ခွင့်ပြုပါရန် လေးစားစွာဖြင့်တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးအောင်မိုးကျော်
ဒါရိုက်တာ
မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်

**Alliance Brewery Company Limited**

No. R-18, S-19, Sittaung Street, Pyinnyawaddy Avenue, Yankin Township, Yangon, Union of Myanmar.
Tel : 95-1-559833, 551616 Fax : 95-1-559876

---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
နေပြည်တော်။

ရက်စွဲ။ ၂၀၁၁ခုနှစ်၊ စက်တင်ဘာလ (၃၀) ရက်။

**အကြောင်းအရာ။** ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်ပေးပို့ခြင်း။

**မဟာမိတ်ဘရူဝါရီ ကုမ္ပဏီလီမိတက်သည်** ရန်ကုန်တိုင်း၊ မှော်ဘီမြို့နယ်၊ လိပ်ပွတ်ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၅၆၀)၊ လန (၃၉) ခွင့်ပြုမိန့်ရရှိပြီးသော မြေဧရိယာ (၂၄.၈၆) ဧကပေါ်တွင် ဘီယာချက်စက်ရုံအသစ်တည်ဆောက်နိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ ခွင့်ပြုမိန့် ထုတ်ပေးနိုင်ပါရန် အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာ (၂၀) စုံ ပေးပို့တင်ပြလျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

ဦးအောင်မိုးကျော်
ဒါရိုက်တာ
မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်

**Alliance Brewery Company Limited**

No. R-18, S-19, Sittaung Street, Pyinnyawaddy Avenue, Yankin Township, Yangon, Union of Myanmar.

Tel : 95-1-559833, 551616 Fax : 95-1-559876

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
နေပြည်တော်။

ရက်စွဲ။ ။ ၂၀၁၁ခုနှစ်၊ စက်တင်ဘာလ (၃၀) ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုမိန့် ထုတ်ပေးပါရန်နှင့် ယင်းဥပဒေအရ၊ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များ ခံစားခွင့်ပြုပါရန် လျှောက်ထားခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ ကျွန်တော်များ မဟာမိတ်ဘရူဝါရီ ကုမ္ပဏီလီမိတက်အနေဖြင့် ရန်ကုန်တိုင်း၊ မှော်ဘီမြို့နယ်၊ လိပ်ပွတ်ကျေးရွာအုပ်စု ကွင်းအမှတ် (၅၆၀)၊ လန (၃၉) ခွင့်ပြုမိန့်ရရှိပြီးသော မြေဧရိယာ (၂၄.၈၆) ဧကပေါ်တွင် ဘီယာချက်စက်ရုံ တည်ဆောက်ပြီး၊ ဘီယာထုတ်လုပ်၍ ပြည်တွင်းတွင် ရောင်းချသည့်လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

၂။ ကျွန်တော်များကုမ္ပဏီသည် အဆိုပါလုပ်ငန်းအတွက် မတည်ရင်းနှီးငွေ ကျပ်သန်းပေါင်း (၁၀၀၀၀) ထည့်ဝင်ရင်းနှီးမည်ဖြစ်ပြီး Phase 1 Year 1 2012 တွင် ကျပ်သန်းပေါင်း (၃၀၀၀)နှင့် Phase 1 Year 2 2013 တွင် ကျပ်သန်းပေါင်း(၇၀၀၀) ရင်းနှီးမြှုပ်နှံ ကြမည်ဖြစ်ပါသည်။

၃။ ကျွန်တော်များကုမ္ပဏီသည် နိုင်ငံတကာအဆင့်မီ စက်ရုံတည်ဆောက်၍ ဘီယာ ထုတ်လုပ်ခြင်း လုပ်ငန်းလုပ်ကိုင်ပြီး ပြည်တွင်းတွင် ရောင်းချခြင်းအားဖြင့် ပြည်ပမှ ဘီယာတင်သွင်းမှုကို လျှော့နည်းစေပြီး နိုင်ငံခြားငွေများ စီးထွက်မှုကို လျှော့နည်းစေရန်၊ နိုင်ငံတော်အတွက်အခွန် ဘဏ္ဍာငွေများတိုးပွားလာစေရန်၊ နိုင်ငံတော်အတွင်း ခေတ်မီပညာရပ်များ တိုးပွားရရှိစေရန်၊ မြန်မာနိုင်ငံသားများ အတွက် အလုပ်အကိုင်အခွင့်အလမ်းများ ပေါ်ပေါက်လာစေရန် နှင့် နိုင်ငံတော်၏ ဘက်စုံစီးပွားရေး၊ ဖွံ့ဖြိုးတိုးတက်မှုကို အရှိန်အဟုန်မြင့်၍ ထောက်ကူပံ့ပိုးပေးနိုင်ရန် စသည့်အကျိုးစီးပွားများ ဖြစ်ထွန်း ပေါ်ပေါက်စေသည့်အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဤအဆိုပြုချက်ကို လက်ခံ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် (Permit) ထုတ်ပေးနိုင်ပါရန် လျှောက်ထားအပ်ပါသည်။

**Alliance Brewery Company Limited**

No. R-18, S-19, Sittaung Street, Pyinnyawaddy Avenue, Yankin Township, Yangon, Union of Myanmar.

Tel : 95-1-559833, 551616  Fax : 95-1-559876

---

၄။ ကျွန်တော်များကုမ္ပဏီအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်၊ သက်သာခွင့်များ ခံစားခွင့်ပြုပါရန် လေးစားစွာ တင်ပြအပ်ပါသည်။

၅။ ဤအဆိုပြုချက်နှင့်အတူ အောက်ဖော်ပြပါ စာရွက်စာတမ်းအထောက်အထားများကို ပူးတွဲ တင်ပြအပ်ပါသည်။

(၁) ကမကထပြုသူ၏ လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက် (မနသ-ပုံစံ)

(၂) ကုမ္ပဏီ၏သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်းများ

(၃) ဘဏ္ဍာရေးဆိုင်ရာ အချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုများ စသည်တို့ ဖြစ်ပါသည်။

၆။ သို့ပါ၍ ဤအဆိုပြုချက်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ လက်ခံခွင့်ပြုပြီး အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များ ခံစားခွင့်ပြုပါရန် နှင့် ခွင့်ပြုမိန့် (Permit) ထုတ်ပေးပါရန် လေးစားစွာဖြင့် လျှောက်ထားအပ်ပါသည်။

လျှောက်ထားသူ

ဦးအောင်မိုးကျော်
ဒါရိုက်တာ
မဟာမိတ်ဘီယာချက်လုပ်ရေးကုမ္ပဏီလီမိတက်

**Alliance Brewery Company Limited**

No. R-18, S-19, Sittaung Street, Pyinnyawaddy Avenue, Yankin Township, Yangon, Union of Myanmar.

Tel : 95-1-559833, 551616 Fax : 95-1-559876

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
နေပြည်တော်။

ရက်စွဲ။ ။ ၂၀၁၁ခုနှစ်၊ စက်တင်ဘာလ (၃၀) ရက်။

အကြောင်းအရာ။ ။ ဘီယာစက်ရုံတည်ဆောက်မည့်စီမံကိန်းအကျဉ်းချုပ်အားတင်ပြခြင်း။

<u>ဘီယာထုတ်လုပ်ရေးစီမံကိန်း</u>

<u>နိဒါန်း</u>

ဘီယာစက်ရုံတည်ဆောက်ရန် စီမံကိန်းကို အဆိုပြုသည့် အစုရှင်များမှာ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန၊ ပြည်တွင်းအခွန်ဦးစီးဌာနသို့ ဝင်ငွေခွန်နှင့် ကုန်သွယ်ခွန်များ အချိန်မှန်မှန်နှင့် အများဆုံးပေးဆောင်ရာတွင် ၂၀၁၀-၂၀၁၁ ဘဏ္ဍာရေးနှစ်များတွင် အမှတ်စဉ် (၁) မှ (၁၀) အတွင်း နေရာရရှိထားသော IBTC နှင့် MWDC တို့မှ အစုရှင်များဖြစ်ပါကြောင်း တင်ပြ အစီရင်ခံပါသည်။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ အမျိုးသားဝင်ငွေ (National Income) ခွဲဝေပုံနှံ့မှု (Income distribution) အမျိုးအစား၊ ကုန်စည်စားသုံးမှုပုံစံ (Consumption pattern) စသည့် အချက်အလက်များကို အခြေခံ၍ မဟာမိတ်ဘရူဝါရီ ကုမ္ပဏီသည် မြန်မာနိုင်ငံဘီယာဈေးကွက် အတွင်းသို့ ဝင်ရောက်နိုင်ရန်အတွက် လိုအပ်သော လေ့လာခန့်မှန်းမှုများကို ကြိုတင်ဆောင်ရွက်ခဲ့ပြီး ဖြစ်ပါသည်။

မဟာမိတ်ဘရူဝါရီ ကုမ္ပဏီလီမိတက် သည် မြန်မာနိုင်ငံအဖျော်ယမကာ ဈေးကွက်တွင် အရည်အသွေး မြင့်မားသော ကုန်ပစ္စည်းကို ထုတ်လုပ်၍ ဈေးကွက်တွင် ဖြန့်ဖြူးရောင်းချခဲ့သည့် အတွေ့အကြုံရင့် ကုမ္ပဏီကြီးတစ်ခုဖြစ်သည့် (IBTC) ၏ အစုရှင်များမှ တည်ထောင်မည့်ကုမ္ပဏီ တစ်ခုဖြစ်ပါသည်။ မြန်မာဘီယာဈေးကွက်တွင် လောလောဆယ် အဓိကနေရာယူ ဖြန့်ဖြူးရောင်းချနေသည့် နိုင်ငံခြားကုမ္ပဏီများနှင့် ရင်ဘောင်တန်းယှဉ်ပြိုင်နိုင်ရန်အတွက် ဘီယာကုမ္ပဏီတစ်ခုကို တည်ထောင်ဆောင်ရွက်လိုပါသည်။

**Alliance Brewery Company Limited**

No. R-18, S-19, Sittaung Street, Pyinnyawaddy Avenue, Yankin Township, Yangon, Union of Myanmar.

Tel : 95-1-559833, 551616  Fax : 95-1-559876

အတွေ့အကြုံရင့် ကုမ္ပဏီကြီးဖြစ်သည့် (IBTC) ၏ စွမ်းဆောင်ရည်မြင့်မားမှုနှင့် ဒေသတွင်း ဈေးကွက်အတွေ့အကြုံများတို့ဖြင့် မြန်မာနိုင်ငံ ဘီယာဈေးကွက်အတွင်းသို့ ဝင်ရောက်ယှဉ်ပြိုင်ပြီး သင့်တင့်သော ဈေးကွက်ဝေစုတစ်ခုကို ကောင်းစွာရရှိလိမ့်မည်ဟု ယုံကြည်ပါသည်။

<u>အကောင်အထည်ဖော်ဆောင်ရွက်မည့် လုပ်ငန်းစဉ်</u>

ဘီယာချက်စက်ရုံနှင့် ဘီယာချက်လုပ်မည့်လုပ်ငန်းစဉ်များကို အဆင့်မြင့် ဂျာမန်နည်းပညာ၊ စံချိန်စံညွှန်းများနှင့်အညီ စက်ပစ္စည်းများ တင်သွင်းတည်ထောင် ထုတ်လုပ်မည်ဖြစ်ပါသည်။ ဆောင်ရွက်မည့် ဘီယာချက်လုပ်ငန်းစဉ်သည် သဘာဝဘေးအန္တရာယ်နှင့် ဝန်ထမ်းအလုပ်သမား များအား ထိခိုက်မှု မရှိစေရန်အတွက် စက်ရုံပုံစံဒီဇိုင်းရေးဆွဲရာတွင်လည်း အထူးဂရုပြု ထည့် သွင်းပြီး တည်ဆောက်သွားရန်ဖြစ်ပါသည်။

ထိုသို့အဆင့်မြင့် နည်းပညာများဖြင့် ဆောင်ရွက်ရာတွင် အရင်းအမြစ်များဖြစ်သည့် လုပ်သားအင်အား၊ လောင်စာ နှင့် စွမ်းအင်ကုန်ကြမ်းပစ္စည်းများကို အလေအလွင့်မရှိစေရန်လည်းကောင်း၊ သဘာဝပတ်ဝန်းကျင်အတွက် ဆိုးကျိုးသက်ရောက်နိုင်မည့် ဓာတုပစ္စည်းနှင့် အခြား အရောအနှောများ မပါဝင်စေရန်လည်းကောင်း အကျိုးရှိရှိ စွမ်းဆောင်ရည်ပြည့်ဝစွာ အသုံးချ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

<u>သဘာဝပတ်ဝန်းကျင်သန့်ရှင်းရေး</u>

<u>ရေဆိုးသန့်စင်ခြင်း</u>

ဘီယာချက်စက်ရုံတွင် ရေဆိုးသန့်စင်ခြင်းစနစ်ကို စက်ရုံစတင်တည်ထောင်သည့် ကနဦး ကာလကပင် ထည့်သွင်းတည်ဆောက်မည်ဖြစ်ပါသည်။ ထွက်ရှိလာမည့် ရေဆိုးများကို ပထမအဆင့်၊ ဒုတိယအဆင့် နှင့် တတိယအဆင့်စသည်ဖြင့် အဆင့်ဆင့် သန့်စင်သွားမည် ဖြစ်ပါသည်။ ထိုသို့သန့်စင်ရာတွင် ခဲ၊ ကျောက်၊ အမှုန်အမွှားများကို ဇကာစိပ်များဖြင့် စစ်ခြင်း၊ ကျောက်ဖြုန်းများနှင့် အနယ်များကို အတန်းလိုက် ခွဲခြားစစ်ထုတ်ခြင်း၊ ဇီဝဓာတုဆိုင်ရာ အောက်ဆီဂျင်မဲ့ပစ္စည်းများကို အောက်ဆီဂျင်ရရှိအောင် ဓာတ်ပြုသော ကန်များတည်ဆောက်ပြီး ရေပန်းရေတံခွန်စနစ် ရေငွေ့ပျံစေခြင်းစနစ်များဖြင့် ဆောင်ရွက်မည်ဖြစ်ပါသည်။ ဤစနစ်ကို တပ်ဆင်အသုံးပြုခြင်းနှင့် ပတ်သက်၍ ခန့်မှန်းကုန်ကျစရိတ်များကို ပဏာမလေ့လာမှု အစီရင် ခံစာတွင် ထည့်သွင်းဖော်ပြထားပါသည်။

**Alliance Brewery Company Limited**

No. R-18, S-19, Sittaung Street, Pyinnyawaddy Avenue, Yankin Township, Yangon, Union of Myanmar.
Tel : 95-1-559833, 551616 Fax : 95-1-559876

ရေဆိုးသန့်စင်စက်ရုံကို စံချိန်စံညွှန်းများနှင့်အညီ တည်ထောင်ဆောင်ရွက်ထားခြင်းဖြင့် ပတ်ဝန်းကျင်နှင့် အနီးအနားစက်ရုံအလုပ်ရုံများသို့ ရေဆိုး၊ အနံ့ဆိုးများရောက်ရှိလာပါကလည်း ဘေးဥပါဒ်မပေးနိုင်သည့် ပမာဏအနည်းဆုံးအဆင့်အထိ လျှော့ချပေးနိုင်လိမ့်မည်ဟု မဟာမိတ်ဘရူဝါရီကုမ္ပဏီက ယုံကြည်ပါသည်။ ရေဆိုးသန့်စင်ခြင်းလုပ်ငန်းကို **အာဆီယံစံချိန်စံညွှန်းများနှင့် အညီ** ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

<u>မီးဘေးအန္တရာယ်ကာကွယ်ခြင်း</u>

ဘီယာစက်ရုံကို ဘီယာချက်လုပ်သည့် လုပ်ငန်းနယ်ပယ်အတွင်းတွင် မီးလောင်နိုင်သော ပစ္စည်းများ လုံးဝမရှိခြင်း (သို့မဟုတ်) နည်းနိုင်သမျှနည်းသည့် မီးဘေးအန္တရာယ်အနည်းဆုံး စက်မှုလုပ်ငန်းအဖြစ် ပုံစံထုတ် ဒီဇိုင်ရေးဆွဲထားပါသည်။

မီးဘေးအန္တရာယ်အဓိကဖြစ်နိုင်သည့်နေရာမှာ လောင်စာသုံး ဘွိုင်လာများထားရှိသည့် အဓိကစွမ်းအင်အသုံးပြုရာ နေရာတစ်ခုတည်းသာရှိပါသည်။ မီးသတ်ဆေးဘူးများကို လွယ်လင့်တကူအသုံးပြုနိုင်ရန် စက်ရုံ၏ နေရာတိုင်းတွင် ထားရှိထားပါမည်။ မြန်မာနိုင်ငံမီးသတ်ဦးစီးဌာန၏ လမ်းညွှန်မှုကိုခံယူ၍ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်နိုင်ရန်အတွက် အသေးစိတ် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

<u>လုပ်သားအင်အား</u>

ဘီယာစက်ရုံတွင် တာဝန်ထမ်းဆောင်ကြမည့်လုပ်သားအင်အားတရပ်လုံးသည် ကျန်းမာရေးနှင့် ညီညွတ်ပြီး စွမ်းရည်ပြည့်ဆောင်ရွက်နိုင်မည့် ကျွမ်းကျင်ဝန်ထမ်းများဖြစ်လာသည့်တိုင်အောင် အဆင့်ဆင့် ပညာပေးလေ့ကျင့်သင်ကြားပေးသွားမည်ဖြစ်ပါသည်။

ထုတ်လုပ်ရေးဝန်ထမ်းဦးရေကို လုပ်ငန်းစတင်လည်ပတ်သည့် ကနဦးကာလတွင် (၁၀၀) ဟု သတ်မှတ်ထားသော်လည်း အရောင်းနှင့် ထုတ်လုပ်မှုတိုးတက်လာသည်နှင့်အမျှ ဝန်ထမ်းဦးရေကို (၁၅၀) အထိ တိုးချဲ့ခန့်ထားမည်ဖြစ်ပြီး ဤလေ့လာမှုတွင် ဈေးကွက်ရှာဖွေရေးနှင့် ဖြန့်ဖြူးရောင်းချမှု မြှင့်တင်ရေးဝန်ထမ်းများမပါဝင်ပါ။

မဟာမိတ်ဘရူဝါရီ ကုမ္ပဏီသည် လုပ်သားဝန်ထမ်းနှင့် ဆက်ဆံရေးကောင်းမွန်မှုရှိသော ကုမ္ပဏီတစ်ခုဖြစ်စေရန်နှင့် နိုင်ငံတကာအဆင့်မီ စွမ်းဆောင်ရည်မြင့်မားစေရန် **ဘီယာလုပ်ငန်းနှင့်** ပတ်သက်သော ပညာရှင်များကို ခေါ်ယူ၍ သင်ကြားစေမည်ဖြစ်ပါသည်။

**Alliance Brewery Company Limited**

No. R-18, S-19, Sittaung Street, Pyinnyawaddy Avenue, Yankin Township, Yangon, Union of Myanmar.

Tel : 95-1-559833, 551616 Fax : 95-1-559876

---

<u>ကုန်ကြမ်းများတင်သွင်းခြင်း</u>

ဘာလီအမျိုးအစားဝင် မုယောစပါးသည် ဘီယာချက်လုပ်မှုတွင် အရေးပါသော ကုန်ကြမ်းပစ္စည်းတစ်ခု ဖြစ်ပါသည်။

ဘာလီကို သဘောတရားအားဖြင့် မြန်မာနိုင်ငံအအေးပိုင်းဒေသများတွင် စိုက်ပျိုးနိုင်ပါသည်။ ဒိန်းမတ်သုတေသီများက ထိုင်းနိုင်ငံ ချိန်ရိုင်းဒေသတွင် ယင်းကိစ္စကို သုတေသနပြုလျက်ရှိပါသည်။ ရရှိသော ဆန်းစစ်ချက်များအရ ဤဒေသတွင် စမ်းသပ်စိုက်ပျိုးသော ဘာလီများ၏ အရည်အသွေးမှာ လိုအပ်သည့် အဆင့်ထက် နိမ့်နေသေးကြောင်း တွေ့ရှိရပါသည်။

IBTC ကုမ္ပဏီ၏ စိုက်ပျိုးရေးဌာနသည် ဘီယာစက်ရုံတည်ထောင်ခွင့်ရရှိသည်နှင့်တပြိုင်နက် နိုင်ငံခြားသုံးငွေ ခြွေတာနိုင်ရန် မြန်မာနိုင်ငံတွင် အဆင့်မီသော ဘာလီစိုက်ပျိုးရေးကို စတင်ဆောင်ရွက်မည်ဖြစ်ပါသည်။

သမာရိုးကျဒေသအလေ့အထအရ စိုက်ပျိုးသော မုယောစပါးအမျိုးအစားကို အရင်းအနှီးငွေအနည်းငယ်ဖြင့် သင့်တင့်သော ကာလတွင် စတင်စိုက်ပျိုးနိုင်မည်ဟု ယုံကြည်ပါသည်။

<u>ဗျစ်ပန်း</u>

ဟော့(ပ) ခေါ် ဗျစ်ပန်းသည် အအေးပိုင်းရာသီတွင် ပေါက်သော နွယ်ပင်တစ်မျိုးဖြစ်ပြီး အာရှဒေသများတွင် စမ်းသပ်စိုက်ပျိုးလျက်ရှိကြပါသည်။

ဘီယာချက်လုပ်ရာတွင် ဗျစ်ပန်းကို အခါးအရသာနှင့် ဘီယာအနံ့အတွက် နှစ်မျိုးခွဲခြားအသုံးပြုပါသည်။ IBTC ကုမ္ပဏီသည် ဗျစ်ပန်းပင်များကို မြန်မာပြည်တွင် စိုက်ပျိုးဖြစ်ထွန်းပါက အခါးအရသာအလို့ငှာ အသုံးပြုသော ဗျစ်ပန်းများကို စိုက်ပျိုးမည်ဖြစ်ပါသည်။

<u>တဆေး</u>

နိုင်ငံတကာတွင် ရရှိနိုင်သော အကောင်းဆုံးတဆေးမျိုးရိုးဗီဇများကို အခြေပြု၍ ဘီယာစက်ရုံအတွက် လိုအပ်သော တဆေးကို စက်ရုံအတွင်း တဆေးမျိုးပွားကန်များတွင်ပင် ထုတ်လုပ်မည် ဖြစ်ပါသည်။

လေးစားစွာဖြင့်

အောင်မိုးကျော်
ဒါရိုက်တာ
မဟာမိတ်ဘီယာချက်လုပ်ရေးကုမ္ပဏီလီမိတက်

**Alliance Brewery Company Limited**

No. R-18, S-19, Sittaung Street, Pyinnyawaddy Avenue, Yankin Township, Yangon, Union of Myanmar.

Tel : 95-1-559833, 551616 Fax : 95-1-559876

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
နေပြည်တော်။

ရက်စွဲ။ ။ ၂၀၁၁ခုနှစ်၊ စက်တင်ဘာလ (၃၀) ရက်။

အကြောင်းအရာ။ ။ တည်ဆောက်မည့် ဘီယာချက်စက်ရုံ၏ မြေနေရာရွေးချယ်သတ်မှတ်မှုနှင့် ပတ်သက်၍ ရှင်းလင်းတင်ပြ အစီရင်ခံခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်များ၏ မဟာမိတ်ဘရူဝါရီ ကုမ္ပဏီ လီမိတက်သည် ရန်ကုန်တိုင်း၊ မှော်ဘီမြို့နယ်၊ လိပ်ပွတ်ကျေးရွာအုပ်စု ကွင်းအမှတ် (၅၆၀)၊ လန (၃၉) ခွင့်ပြုမိန့်ရရှိပြီးသော မြေ (၂၄.၈၆)ဧကပေါ်တွင် စက်ရုံတည်ဆောက်၍ ဘီယာ ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်းကိုလုပ်ကိုင်ခွင့်ရရှိရန်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ခွင့်ပြုမိန့် လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

၂။ ကျွန်တော်များ ကုမ္ပဏီအနေဖြင့် စုစုပေါင်း ကျပ်သန်း(၁၀၀၀၀)အထိ ရင်းနှီးမြှုပ်နှံရန် ရည်ရွယ်ထားပါသည်။ ဘီယာချက်လုပ်ရန် လိုအပ်သော စက်ပစ္စည်းများကို နိုင်ငံခြားမှ တင်သွင်း၍ တည်ဆောက်ရင်းနှီးမြှုပ်နှံရန် စီစဉ်ထားပါသည်။ ထွက်ရှိလာမည့် ဘီယာများကို ပြည်တွင်းတွင် ရောင်းချဖြန့်ဖြူး သွားမည်ဖြစ်ပါသဖြင့် လှည့်ပတ် ရန်ပုံငွေအတွက် လိုအပ်ချက်များကို ဖြည့်ဆည်းနိုင်မည်ဖြစ်ပါသည်။

၃။ ယခုစက်ရုံတည်ဆောက်မည့် မြေနေရာမှာ ရန်ကုန်တိုင်း၊ မှော်ဘီမြို့နယ်၊ လိပ်ပွတ်ကျေးရွာအုပ်စု ကွင်းအုပ်စု (၅၆၀)၊ လန(၃၉) မြေလွတ်မြေရိုင်းဧရိယာ (၂၄.၈၆)ဧကကို စက်ရုံမြေနေရာ လျှောက်ထား၍ တည်ဆောက်သွားမည်ဖြစ်ပါသည်။ သက်ဆိုင်ရာ ဒေသအာဏာပိုင်၏ တည်ဆောက်ခွင့်ပြုကြောင်း၊ ကန့်ကွက်ရန် မရှိကြောင်း သဘောထား မှတ်ချက်ကို ပါ ပူးတွဲတင်ပြထားပါသည်။

**Alliance Brewery Company Limited**

No. R-18, S-19, Sittaung Street, Pyinnyawaddy Avenue, Yankin Township, Yangon, Union of Myanmar.

Tel : 95-1-559833, 551616 Fax : 95-1-559876

၄။ ဘီယာများထုတ်လုပ်ရောင်းချမှု အရှိန်အဟုန်ရလာပါက လုပ်ငန်းပေါ်မှ ထိုက်သင့်သော အကျိုးအမြတ်များ ရရှိလာနိုင်မည်ဖြစ်သဖြင့် ထိုအမြတ်များကို နိုင်ငံတော်အတွက် လိုအပ်နေသည့် အခြားလုပ်ငန်းတစ်ခုခုကို အသစ်တိုးချဲ့တည်ဆောက် ရင်းနှီးသွားရန်လည်း ရည်ရွယ်ထားပါသည်။

လျှောက်ထားသူ

ဦးအောင်မိုးကျော်
ဒါရိုက်တာ
မဟာမိတ်ဘီယာချက်လုပ်ရေးကုမ္ပဏီလီမိတက်

**Alliance Brewery Company Limited**

No. R-18, S-19, Sittaung Street, Pyinnyawaddy Avenue, Yankin Township, Yangon, Union of Myanmar.

Tel : 95-1-559833, 551616 Fax : 95-1-559876

---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
နေပြည်တော်။

ရက်စွဲ။ ။ ၂၀၁၁ခုနှစ်၊ စက်တင်ဘာလ (၃၀) ရက်။

အကြောင်းအရာ။ ။ မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက် ၏ ဘီယာချက်စက်ရုံ တည်ဆောက်ခြင်းလုပ်ငန်း နှင့် ပတ်သက်၍ ကတိဝန်ခံချက် တင်ပြခြင်း။

အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံတွင် တရားဝင်ဖွဲ့စည်း တည်ထောင်မည့် မဟာမိတ်ဘရူဝါရီ ကုမ္ပဏီလီမိတက်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဘီယာချက်စက်ရုံ လုပ်ငန်း ဆောင်ရွက်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလျှောက်ထားခြင်း ဖြစ်ပါသည်။ ထိုသို့ လျှောက်ထားရာတွင် ခွင့်ပြုမိန့် **ရရှိနိုင်ရေးအတွက်** အောက်ပါတို့ကို ဝန်ခံကတိပြုပါသည်။

(က) ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း ဝန်ခံကတိပြုပါသည်။

(ခ) ဤစက်ရုံမှ ထွက်ရှိလာသော ကုန်ချောပစ္စည်းများကိုပြည်တွင်းတွင် မြန်မာကျပ်ငွေဖြင့် ရောင်းချသွားမည်ဖြစ်ပါသည်။

(ဂ) နိုင်ငံတော်အစိုးရမြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ကတိပြုပါသည်။

(ဃ) ထို့အပြင် ကျွန်တော်တို့ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သော စီမံချက်များ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ကြောင်းနှင့် ပြည်ထောင်စု မြန်မာနိုင်ငံတော်၏ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန် အကောင်အထည်ဖော် ဆောင်ရွက်သွားမည်ဟု ဝန်ခံကတိပြုပါသည်။

**Alliance Brewery Company Limited**

No. R-18, S-19, Sittaung Street, Pyinnyawaddy Avenue, Yankin Township, Yangon, Union of Myanmar.

Tel : 95-1-559833, 551616 Fax : 95-1-559876

---

(င) မီးဘေးကြိုတင်ကာကွယ်မှုများပြုလုပ်ဆောင်ရွက်သွားမည်ဖြစ်ကြောင်းဝန်ခံကတိပြုပါသည်။

(စ) မဟာမိတ် ဘရူဝါရီ ကုမ္ပဏီ လီမိတက် မှ ရရှိလာသော ရောင်းရငွေများကို မြန်မာနိုင်ငံတော်အတွင်း ဖွင့်လှစ်ထားသော ပုဂ္ဂလိကနှင့် အစိုးရဘဏ်များတွင် ငွေစာရင်းများ ဖွင့်လှစ်၍ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(ဆ) မဟာမိတ်ဘရူဝါရီ ကုမ္ပဏီလီမိတက် အနေဖြင့် ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်းဒေသကြီးရ စက်မှုကြီးကြပ်ရေး နှင့် စစ်ဆေးရေး ညွှန်ကြားမှုဦးစီးဌာနတွင် မှတ်ပုံတင်ထားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

ဦးအောင်မိုးကျော်
ဒါရိုက်တာ
မဟာမိတ်ဘရူဝါရီကုမ္ပဏီလီမိတက်

